# كشف الشبهات

# အထင်အလွဲများကို
# ချေဖျက်ခြင်း

ကျမ်းပြုသူ

ရှိုင်းခ် မုဟမ္မဒ်ဗင်န် အဗ်ဒုလ် ဝဟ်ဟားဗ်

ဘာသာပြန်ဆိုသူ

မုဗ်သီဗိုင်စွာလ်ကာမိမီ တန့်ယန်း

# စာရေးသူ၏ အမှာစာ

"အထင်အလွဲအမှားတွေကို ချေဖျက်ခြင်း" ဆိုတဲ့ ဒီစာအုပ်ကလေးဟာ ရှိုင်းခ်မုဟမ္မဒ် အိဗ်နေ့အဗ်ဒုလ်ဝဟားဗ်ပြုစုခဲ့တဲ့ စာအုပ်ဖြစ်တယ်။ အဲဒါကို ကျွန်တော်က မြန်မာလို သာမန်လူတွေပင် ဖတ်နိုင်အောင် အတတ်နိုင်ဆုံး ရိုးရိုးရှင်းရှင်း ပြန်ဆိုထားပါတယ်။ ဒီစာအုပ်ကလေးဟာ သောင်ဟီးဒ်-အလ္လာဟ်တစ်ပါးတည်းကို ခဝပ်ကိုးကွယ်ဖို့ ပြောတဲ့စာအုပ်ပါ။ ပြီးတော့ လူအများစု ရှိရိက်မဟုတ်ဘူးလို့ ထင်မှတ်နေတဲ့ ရှိရိက်တွေကို ထုတ်ဖော်ချေဖျက်ထားတဲ့ စာအုပ်ပါ။ စောဒကတွေနဲ့ အဖြေတွေကို တွဲတွဲပြီး တင်ပြချေပတဲ့ စာအုပ်ကလေးပါ။ အဓိကကတော့ ကုဗူရီ - ဝလီသူတော်စင်တွေရဲ့ဂုဗ်ရသင်္ချိုင်းတွေဆီသွားပြီး မိမိတို့ လိုအင်ဆန္ဒတွေကို တောင်းဆိုခြင်း၊ ဘာဘာကြီးတို့ ဘာတို့ထံ သွားရောက်ဆည်းကပ်ခြင်း၊ သူတို့ဟာ မိမိတို့နဲ့ အလ္လာဟ်ရဲ့ကြားမှာ ကြားခံဆက်သွယ်ပေးသူတွေလို့ မှတ်ယူခြင်း၊ အလ္လာဟ်နဲ့ နီးစပ်လိုသော ဆန္ဒနဲ့ ဖြစ်စေ အဲဒီသူတွေထံ သွားရောက်ဆည်းကပ်တသခြင်း၊ သူတော်စင်တွေဟာ အကွယ်ကို သိတယ် ကြားတယ်လို့ မှတ်ပြီး သူတို့ကို အကွယ်ကနေ ဟစ်ခေါ်တသခြင်း စသဖြင့် ရှိရိက်ကိစ္စတွေနဲ့ အဲဒီမုရှ်ရိက်တွေရဲ့ စောဒကတွေကို ကုရ်အာန်၊ ဟဒီးဆ်"တူ"နဲ့ ထုထောင်းချေဖျက်ထားတဲ့ စာအုပ်ကလေးပါ။ သူတို့ရဲ့အမှားအယွင်းတွေကို မှန်ပါတယ်ဆိုပြီး အထောက်အထားတွေနဲ့အတည်ပြုထားတာတွေကိုလည်း ကုရ်အာန်၊ ဟဒီးဆ် အထောက်အထားနဲ့ ပြတ်လည်ချေပထုထောင်းထားပါတယ်။

မိသားစုတိုင်းမှာ ဆောင်ထားပြီး အချင်းချင်း တိုက်တွန်းနှိုးဆော်နေရမဲ့ စာအုပ်ပါ။ အိမ်တွေမှာ မိသားစုတွေမှာ အနည်းနဲ့အများ ဒရ်ဂါသွားပြီး ဟိုဟာသွားကိုး ဒီဟာသွားတောင်း သူတော်စင်တွေရဲ့ နာမည်နဲ့ သားကောင်လှီးဖြတ်ခြင်းတွ ဘာတွေလုပ်တဲ့ လူတွေ ရှိတတ်ကြပါတယ်။ ကဗရ်ထဲက ဘာမှမလုပ်တတ်တဲ့ လူသေတွေကို အလ္လာ့ဟ်ထံမှာ မိမိတို့အဖို့ ရှဖာအတ်

## ~~အထင်အလွဲများကို ချေဖျက်ခြင်း~~

လုပ်ပေးပါ ဘာညာနဲ့ တောင်းတတ်တဲ့ လူတွေ ရှိကြပါတယ်။ အလ္လာဟ် အရှင်မြတ်ဟာ ရှိရိက်ကိစ္စကို လုံးဝခွင့်လွှတ်မှာမဟုတ်ဘူးလို့ မိန့်ထားပါတယ်။ အဲဒီတော့ ဘယ်ဟာတွေက ရှိရိက်ဖြစ်သလဲဆိုတာကို မသိတဲ့လူဟာ အဲဒီရှိရိက်တွေကို ရှောင်နိုင်ဖို့ဆိုတာ ဖြစ်ကို မဖြစ်နိုင်ပါဘူး။ ထို့ကြောင့် ကျွန်တော့်အနေနဲ့ တိုက်တွန်းလိုတာက “ဒီစာအုပ်ကလေးကို လူတို့လက်ထဲများများရောက်အောင်လုပ်ပြီး အသိပညာတွေကို များများမျှဝေပေးကြပါ” လို့ ဖြစ်ပါတယ်။ ကျွန်တော်တို့အားလုံးကို ရှိရိက်ကနေ အလ္လာဟ် ထိန်းသိမ်းတော်မူပါစေ။ အာမီးန်။

**မုဖ်သီ ဖိုင်စွာလ် ကာစိမီ တန့်ယန်း**

بسم الله الرحمن الرحيم

# كَشْفُ الشُّبُهَاتِ
# အထင်အလွဲများကို ချေဖျက်ခြင်း

မှတ်ထားရပါမယ်။ အလ္လာဟ်ရှင်မြတ်တစ်ပါးတည်း၊ တစ်ဆူတည်းကို ကိုးကွယ်ခြင်းကိုပဲ "သောင်ဟီးဒ်" လို့ ခေါ်တယ်။ ဒီသာသနာကိုပဲ အလ္လာဟ်က တမန်တော်များမှတစ်ဆင့် မိမိကျေးကျွန်တွေထံကို ပို့ဆောင်ပေးခဲ့တယ်။

တမန်တော်တွေ အားလုံးထက်အလျင် နူးဟ် ﷷ ကြွမြန်းလာခဲ့တယ်။ တမန်တော်ကြီးကို စေလွှတ်ရခြင်းအကြောင်းကတော့ တမန်တော်ကြီးရဲ့လူမျိုးစုတွေဟာ လွန်လေပြီးတဲ့ သူတော်စင်တွေနဲ့ ပတ်သက်ပြီး စည်းလွန်ကမ်းလွန် အတိုင်းထက် လွန်ကျွံတဲ့ရှိသေသမှုတွေ ထားတဲ့အတွက်ကြောင့် ထိုလွန်ကျွံနေတဲ့ အရာတွေကို ပြုပြင်ပေးဖို့အတွက် ဖြစ်တယ်။

အဲဒီသူတော်စင်ကြီးတွေထဲက တချို့ရဲ့ အမည်တွေကတော့ ဝဒ်၊ စုဝါးအ်၊ ယဂူဆ်၊ ယအူးက်၊ နစ်ရ် တို့ဖြစ်တယ်။ တမန်တော်တွေရဲ့ နောက်ဆုံးကွင်းဆက်ကတော့ တမန်တော်မုဟမ္မဒ် ﷺ ဖြစ်တယ်။ တမန်တော်ဟာ နဗီဖြစ်ပြီးတဲ့နောက် ဖော်ပြပါ သူတော်စင်တွေရဲ့ရုပ်တုတွေကို ရိုက်ချိုးပစ်ခဲ့တယ်။ အလ္လာဟ်အရှင်မြတ်ဟာ တမန်တော့်ကို နဗီဘွဲ့ချီးမြှင့်ပြီးနောက် ဒီလိုလူတွေထံကို စေလွှတ်တော်မူခဲ့တယ်။ သူတို့ဟာ အိဗာဒတ်–ကိုးကွယ်ဆည်းကပ် သူများဖြစ်ကြတဲ့အပြင် ဟဂ်ျလည်းလုပ်

ကြတယ်။ ဆွဒကဟ်အလှူလည်း လုပ်ကြတယ်။ အလ္လာဟ်ကို များစွာ သတိလည်းရကြတယ်။ သို့သော် ထိုကောင်းမှုကုသိုလ်တွေကို လုပ်ခြင်းနဲ့ အတူ အလ္လာဟ်အရှင်မြတ်ရဲ့အဖန်ဆင်းခံတွေထဲကပဲ တချို့ကို မိမိတို့နဲ့ အလ္လာဟ်ရဲ့ကြားမှာ ကြားခံဆက်သွယ်ပေးသူလို့ သူတို့က သတ်မှတ်ခဲ့ ကြတယ်။ ပြီးနောက် မိမိတို့ရဲ့ ထိုလုပ်ရပ်ကို မှန်သယောင်ဖြစ်အောင် ဖြေရှင်းတဲ့အနေနဲ့ "ကျွန်ုပ်တို့၏ ရည်ရွယ်ချက်မှာ ၎င်းတို့ကို အကြောင်း ခံပြီး အလ္လာဟ်နှင့်နီးစပ်မှုရရှိရန်ဖြစ်သည်" လို့ပြောတတ်ကြတယ်။ သူတို့ ဟာ ကျွန်ုပ်တို့ကို အလ္လာဟ့်ထံမှာ အသနားခံပေးကြရန်အတွက် ကျွန်ုပ်တို့ ဒီလိုလုပ်တာပါလို့လည်း ဆင်ခြေပေးတတ်ကြတယ်။

သူတို့က ကြားခံ အဆက်အသွယ်လို့ သတ်မှတ်ခဲ့တဲ့ အလ္လာဟ့် အဖန်ဆင်းခံတွေထဲမှာ ကောင်းကင်တမန်တွေပါဝင်သလို အီစာ ﷺနဲ့ မရ်ယမ်သခင်မ တို့လည်း ပါဝင်ကြတယ်။ ဒ့ါအပြင် အခြားအလ္လာ့ဟ် ကျွန်တွေလည်း ပါဝင်သေးတယ်။ ဒါကြောင့် အလ္လာဟ်ရှင်မြတ်က မုဟမ္မဒ်ﷺကို ၎င်းတို့ထံ စေလွှတ်တော် မူတယ်။ အကြောင်းကတော့ ၎င်းတို့ရဲ့အဘိုးဖြစ်တဲ့ အိဗ်ရာဟီးမ် ﷺရဲ့ သာသနာကို ပြန်လည်သစ်လွင် အောင်လုပ်ရန်နှင့် ဒီလို နီးစပ်မှုရယူခြင်း၊ ဒီလို ယုံကြည်မှုထားခြင်းတို့ဟာ အလ္လာဟ်အရှင်မြတ်အတွက်ပဲ ဖြစ်စေဖို့ ပါ။ အလ္လာ့ဟ်အပြင် တခြားသူဟာ ရိုးရိုးသာမန်လူမဆိုနဲ့ဦး၊ အလ္လာဟ်နဲ့ နီးကပ်တဲ့ ကောင်းကင်တမန်တော်၊ နဗီတမန်တော်ဖြစ်ရင်တောင် သူနဲ့ ပတ်သက်ပြီး ဒီလို ယုံကြည်ချက် ထားခြင်း လုံးဝမပိုင်ဘူး ဆိုတာကို ပြောပြဖို့ပါ။

ဒီကိစ္စအပြင် တခြားသာသနာရေးကိစ္စတွေကိုတော့ အဲဒီမုရ်ှရိက် တွေဟာ လက်ခံကြတယ်။ ဖန်ဆင်းရှင်၊ ကျွေးမွေးရှင်ဟာ အလ္လာဟ်ရှင် မြတ်တစ်ပါးတည်းပဲ ဖြစ်တယ်။ အလ္လာဟ်နဲ့ စပ်တူဆိုတာ လုံးဝမရှိ။ အလ္လာ့ဟ်အပြင် ရိဇ်ကွာချီးမြှင့်သူ နောက်တစ်ပါးမရှိ။ သေစေ၊ ရှင်စေနိုင်တဲ့

အာဏာတန်ခိုးဟာ အလ္လာဟ့်မှာပဲ ရှိတယ်။ စကြဝဠာတစ်ခုလုံးရဲ့ စီမံချက်ကလည်း ထိုအရှင်ရဲ့ လက်ဝယ်မှာပဲ ရှိတယ်။ မိုးမြေနဲ့ ထိုနှစ်ခုမှာရှိတဲ့ အရာအားလုံးဟာ ထိုအရှင်ရဲ့စီစဉ်မှုအောက်မှာပဲ ရှိနေတယ်။ အရာခပ်သိမ်းဟာ အလ္လာဟ့်အမိန့်တော်ကို နာခံလျက်ရှိတယ်။ ထိုအရှင်မြတ်ရဲ့ခြယ်လှယ်မှုအောက်မှာပဲ ရှိနေတယ် စတဲ့ စတဲ့အရာတွေကို သူတို့ ယုံကြည်ခဲ့ကြတယ်။

တမန်တော်မြတ်ﷺနဲ့ အငြင်းအခုံပြုခဲ့ကြတဲ့ မုရှ်ရိက်တွေဟာ အထက်ဖော်ပြပါ အချက်တွေကို ယုံကြည်ကြတယ်ဆိုတဲ့ စကားရဲ့ အထောက်အထားလိုချင်ရင် အောက်ပါအာယသ်တော်များကို ဖတ်ပါ။

قُلْ مَنْ يَّرْزُقُكُمْ مِّنَ السَّمَآءِ وَ الْاَرْضِ اَمَّنْ يَّمْلِكُ السَّمْعَ وَ الْاَبْصَارَ وَ مَنْ يُّخْرِجُ
الْحَيَّ مِنَ الْمَيِّتِ وَ يُخْرِجُ الْمَيِّتَ مِنَ الْحَيِّ وَ مَنْ يُّدَبِّرُ الْاَمْرَ فَسَيَقُوْلُوْنَ اللّٰهُ فَقُلْ
اَفَلَا تَتَّقُوْنَ ﴿۳۱﴾

(အို– တမန်တော်)အသင်ပြောလိုက်ပါ– "အသင်တို့ကို မိုးကောင်းကင်နှင့် မြေပထဝီမှ စားနပ်ရိက္ခာကို မည်သူထောက်ပံ့သနည်း။ သို့မဟုတ် ကြားခြင်းနှင့် မြင်ခြင်းများကို မည်သူ စိုးပိုင်သနည်း။ ၎င်းနောက် မည်သူက သက်ရှိကို သက်မဲ့ထဲမှ ထွက်စေပြီး သက်မဲ့ကို သက်ရှိထဲမှ ထွက်စေသနည်း။ ထို့ပြင် မည်သူသည် ကိစ္စဟူသမျှကို စီမံခန့်ခွဲသနည်း"။ သူတို့က "အလ္လာဟ်အရှင်မြတ်" ဟူ၍ အမှန်ပင်ပြောကြလိမ့်မည်။ ထို့အတွက် အသင်ပြောလိုက်ပါ– "သို့ဖြစ်ပါလျက် အသင်တို့သည် (တွဲဖက်ကိုးကွယ်ခြင်းမှ) မရှောင်ကြလေသလော။" (ကုရ်အာန်– ၁၀း၃၁)

قُلْ لِّمَنِ الْاَرْضُ وَ مَنْ فِيْهَآ اِنْ كُنْتُمْ تَعْلَمُوْنَ ﴿۸۴﴾ سَيَقُوْلُوْنَ لِلّٰهِ قُلْ اَفَلَا تَذَكَّرُوْنَ
﴿۸۵﴾ قُلْ مَنْ رَّبُّ السَّمٰوٰتِ السَّبْعِ وَ رَبُّ الْعَرْشِ الْعَظِيْمِ ﴿۸۶﴾ سَيَقُوْلُوْنَ لِلّٰهِ قُلْ اَفَلَا
تَتَّقُوْنَ ﴿۸۷﴾ قُلْ مَنْۢ بِيَدِهٖ مَلَكُوْتُ كُلِّ شَيْءٍ وَّ هُوَ يُجِيْرُ وَ لَا يُجَارُ عَلَيْهِ اِنْ كُنْتُمْ

## ~~အထင်အလွဲများကို ချေဖျက်ခြင်း~~

تَعۡلَمُوۡنَ ۝٨٨ سَيَقُوۡلُوۡنَ لِلّٰهِ ؕ قُلۡ فَاَنّٰى تُسۡحَرُوۡنَ ۝٨٩

(အို-တမန်တော်)အသင်ပြောလိုက်ပါ- မြေပထဝီနှင့် ၎င်းထဲတွင်ရှိသည့်သူများကို မည်သူ စိုးပိုင်သနည်းဆိုသည်ကို အသင်တို့ သိကြလျှင်(ငါ့အား ပြောပြကြပါ)။ သူတို့က ပြောဆိုကြလိမ့်မည်- အလ္လာဟ်အရှင်မြတ်ပင် စိုးပိုင်တော်မူသည်။ (အို-တမန်တော်) အသင်ပြောလိုက်ပါ- သို့ဖြစ်လျှင် အဘယ့်ကြောင့် အသင်တို့ သတိတရားမရကြသနည်း။ (အို-တမန်တော်)အသင်ပြောလိုက်ပါ- မိုးခုနစ်ထပ်ကို စိုးပိုင်တော်မူသောအရှင်နှင့် အလွန် ကြီးကျယ်မြင့်မြတ်သော အရ်ရှ်ပလ္လင်တော်ကို စိုးပိုင်တော်မူသောအရှင်သည် မည်သူနည်း။ သူတို့က ပြောကြလိမ့်မည်- ဤအရာများကိုလည်း အလ္လာဟ်အရှင်မြတ်ပင် စိုးပိုင်တော်မူသည်။

အသင်(တမန်တော်)ပြောလိုက်ပါ- သို့ဖြစ်လျှင် အဘယ့်ကြောင့် အသင်တို့သည်(ထိုအရှင်ကို) မကြောက်ကြသနည်း။ (အို-တမန်တော်) အသင်ပြောလိုက်ပါ- ထိုအရှင်သည် မည်သူနည်း၊ အရာအားလုံး၏ စိုးပိုင်ခွင့်သည် ထိုအရှင်၏ လက်ထဲ၌ပင်ရှိသည်။ ထို့ပြင် ထိုအရှင်သည် ကာကွယ်စောင့်ရှောက် တော်မူသည်။ ထို့ပြင် ထိုအရှင်နှင့် ဆန့်ကျင်ပြီး မည်သူမျှ ကာကွယ်စောင့် ရှောက်နိုင်ခြင်းမရှိပေ။ အကယ်၍ အသင်တို့ သိကြလျှင်(ထိုအရှင်သည် မည်သူနည်းဆိုသည်ကို ငါ့အား ပြောပြကြပါ)။ သူတို့က ပြောကြလိမ့်မည်- ထိုအရာများသည်လည်း အလ္လာဟ်အရှင်မြတ်၌ပင် ရှိသည်။ (အို- တမန်တော်)အသင်ပြောလိုက်ပါ- သို့ဖြစ်လျှင် အသင်တို့သည် မည်သို့ စုန်းပြုစားခြင်း(လှည့်စားမှု)ကို ခံလိုက်ရသနည်း။” (ကုရ်အာန်-၂၃း၈၄-၈၉)

## ~~အထင်အလွဲများကို ချေဖျက်ခြင်း~~

ယခုအသင်သိပါပြီ။ သူတို့ဟာ ထိုအချက်တွေအားလုံးကို ဝန်ခံလင့်ကစား တမန်တော်ယူဆောင်လာတဲ့ သောင်ဟီးဒ်- တစ်ပါးတည်း သောအရှင်ကို ကိုးကွယ်တဲ့ဝါဒမှာ အကျုံးမဝင်ခဲ့ကြဘူး။ သူတို့ ငြင်းဆို လက်မခံတဲ့ သောင်ဟီးဒ်ဟာ တစ်ပါးတည်းကို ကိုးကွယ်ခြင်းဝါဒဖြစ်တယ် ဆိုတာကိုလည်း အသင်သိပြီး ဖြစ်တယ်။ ထိုခေတ်က မုရှ်ရိက်တွေဟာ နေ့ည အလ္လာဟ်ကို ဟစ်ခေါ်တသကြတယ်။ ပြီးတော့ ကောင်းကင် တမန်တွေဟာ သူတော်ကောင်းတွေဖြစ်ပြီး အလ္လာဟ်နဲ့လည်း နီးစပ်တဲ့ အတွက်ကြောင့် မိမိတို့အဖို့ အလ္လာဟ့်ထံမှာ အသနားခံပေးကြမယ် လို့လည်း မှတ်ထင်ပြီးနောက် အဲဒီကောင်းကင်တမန်တော်တွေကို ဟစ် ခေါ်တသသူလည်း သူတို့ထဲမှာ ရှိတယ်။

တချို့က သူတော်စင်တစ်ပါးပါးကို ဟစ်ခေါ်တသကြတယ်။ ဥပမာ- လားသ်၊ တချို့က နဗီတစ်ပါးပါးကို ဟစ်ခေါ်တသကြတယ်။ ဥပမာ-တမန်တော်အီစာ(ခရစ်တော်)။ သို့သော် အသင်သိပြီး ဖြစ်မယ်။ တမန်တော်မြတ်ﷺဟာ အဲဒီမုရှ်ရိက်တွေကို တိုက်ခိုက်ခဲ့တာဟာ ဒီရှ်ရ်က် - အလ္လာဟ်ကို အခြားအရာနဲ့ တုဖက်ကိုး ကွယ်ခြင်းကို သူတို့လုပ်ကြလို့ပဲ ဖြစ်တယ်။ ပြီးတော့ ကိုယ်တော်က အလ္လာဟ်တစ်ပါးတည်းကို ကိုးကွယ် ဖို့ဘက်ကို လူတွေကို ဖိတ်ခေါ်ခဲ့တယ်။ အလ္လာဟ်အရှင်မြတ် အမိန့်ရှိ ထားပါတယ်။

فَلَا تَدۡعُوۡا مَعَ اللّٰهِ اَحَدًا ﴿۱۸﴾

အသင်တို့သည် အလ္လာဟ်အရှင်မြတ်နှင့်အတူ မည်သူ့ကိုမျှ မကိုးကွယ် ကြနှင့်။ (ကုရ်အာန် ၇၂း၁၈)

لَهٗ دَعۡوَةُ الۡحَـقِّ ؕ وَالَّذِيۡنَ يَدۡعُوۡنَ مِنۡ دُوۡنِهٖ لَا يَسۡتَجِيۡبُوۡنَ لَهُمۡ بِشَىۡءٍ

မှန်ကန်သော ဟစ်ခေါ်ဆုတောင်းမှု (ကိုးကွယ်မှု)သည် အရှင်မြတ်တစ်ပါး

တည်း အတွက်သာ ထိုက်တန်မှန်ကန်သည်။ ၎င်းနောက် အရှင်မြတ်မှလွဲ၍ သူတို့ ဟစ်ခေါ်ဆုတောင်းနေကြသော အရာများသည် သူတို့အတွက် သူတို့၏ ဆုတောင်းမှုကို အဖြေမပေးနိုင်ကြပေ။

(ကုရ်အာန်၁၃း၁၄)

အသင်သိမှာပါ။ တမန်တော်မြတ်ﷺဟာ ၎င်းတို့ကို တိုက်ခိုက်ခဲ့တယ်။ ဘာလို့လဲဆိုတော့ ဟစ်ခေါ်တသ၊ တောင်းဆိုမှုမှန်သမျှဟာ အလ္လာ့ဟ်အဖို့ပဲဖြစ်ရန်အတွက်ဖြစ်တယ်။ သားကောင်လှီးခြင်းဟူသမျှဟာ အလ္လာ့ဟ်အဖို့ပဲ ဖြစ်ရန်အတွက်ဖြစ်တယ်။ ကိုးခြင်း၊ အဓိဋ္ဌာန်ပြုခြင်း မှန်သမျှဟာ အလ္လာ့ဟ်အဖို့ပဲ ဖြစ်ရန်အတွက်ဖြစ်တယ်။ အလ္လာဟ်ကိုပဲ အကူအညီဟူသမျှ တောင်းခံရန်၊ ကိုးကွယ်ဆည်းကပ်ခြင်းဟူဟူသမျှဟာ အလ္လာ့ဟ်အဖို့ပဲ ဖြစ်ရန်အတွက် ဖြစ်တယ်။

အသင်သိပြီး ဖြစ်မည်။ သောင်ဟီးဒ်အရ်ရုဗူဗီယဟ် (ခေါ်) ဖန်ဆင်းမွေးမြူ စောင့်ရှောက်ရှင်ဟာ အလ္လာဟ်တစ်ပါးတည်းသာ ဖြစ်တယ်ဆိုတဲ့အယူအဝါဒကို ၎င်းတို့က ဝန် ခံခဲ့ပေမဲ့ သူတို့ရဲ့ ဝန်ခံခြင်းက သူတို့ကို အစ္စလာမ့်ဘောင်အတွင်း မသွပ် သွင်းပေးနိုင်ခဲ့ပါဘူး။ ပြီးတော့ အလ္လာဟ်နဲ့ နီးစပ်မှုရရန် ရည်ရွယ်ချက်၊ အလ္လာဟ့်ထံ အသနားခံပေးမယ်ဆိုတဲ့ မျှော်လင့်ချက်တွေကို ကောင်းကင် တမန်တွေ၊ နဗီတွေ၊ သူတော်စင်တွေအပေါ်ထားပြီး အဲဒီပုဂ္ဂိုလ်ကြီး ပုဂ္ဂိုလ် မြတ်တို့ကို ဆည်းကပ်အားထားလိုက်ခြင်းကပဲ သူတို့ရဲ့အသက်၊ စည်းစိမ်ပစ္စည်းတွေကို (သုံ့ပန်းပစ္စည်းအဖြစ်)ဟလာလ် –တရားဝင်ဖြစ်စေခဲ့တယ်။ ဒီလောက်ဆိုလျှင် နဗီတွေ ဖိတ်ခေါ်ခဲ့တဲ့၊ မုရှ်ရိက်တွေဝန်ခံဖို့ ငြင်းဆန်ခဲ့တဲ့ သောင်ဟီးဒ်ကို အသင်သိလောက်ပြီထင်တယ်။

## ~~အထင်အလွဲများကို ချေဖျက်ခြင်း~~

ဒီသောင်ဟီးဒ်ရဲ့ဆိုလိုရင်းက အသင်ရွတ်ဆိုတဲ့ لَا إِلٰهَ إِلَّا اللّٰهُ (ကိုးကွယ်ခံထိုက်သော အရှင်သည် အလ္လာဟ်တစ်ပါးတည်းသာ ဖြစ်သည်)နဲ့ တစ်ထပ်တည်းပဲ ဖြစ်တယ်။ မုရှ်ရိက်တွေရဲ့ ဖွင့်ဆိုမှုမှာ إِلٰهٌ – အိလာဟ်လို့ခေါ်တဲ့အရှင်ဆိုတာက မိမိတို့အရေးကိစ္စတွေဖြစ်မြောက်ရေးအတွက် မှီခိုအားထားရတဲ့ အရာတွေ ဖြစ်တယ်။ အဲဒီမှီခိုအားထားခြင်းခံရတဲ့ အရာဟာ ကောင်းကင်တမန်ဖြစ်စေ၊ နဗီဖြစ်စေ၊ သူတော်စင်တစ်ပါးပါးဖြစ်စေ၊ သစ်ပင်တစ်ပင်ပင်ဖြစ်စေ၊ ကဗရ်သင်္ချိုင်းတစ်ခုခုဖြစ်စေ၊ နတ်တစ်ကောင်ကောင်ဖြစ်စေ စသဖြင့် ဘာမဆိုဖြစ်နိုင်တယ်။ إِلٰهٌ လို့ခေါ်တဲ့ ကိုးကွယ်ခံထိုက်တဲ့အရှင်ဟာ ဖန်ဆင်းတဲ့အရှင်၊ ကျွေးမွေးတဲ့အရှင်၊ အရာရာ စီမံအုပ်ချုပ်တဲ့ အရှင်ဖြစ်တယ်လို့ အဲဒီမုရှ်ရိက်တွေက မဖွင့်ဆို၊ မသတ်မှတ်ကြဘူး။ ဘာကြောင့်လဲ ဆိုရင် ထိုကိစ္စတွေကို ပိုင်စိုးသူ၊ တတ်နိုင်သူကတော့ အလ္လာဟ်တစ်ပါးတည်းသာ ဖြစ်ကြောင်း သူတို့က အစကတည်းက အပြည့်အဝယုံကြည်ပြီးသားလေ။

ယနေ့ခေတ်မုရှ်ရိက် တွေက " သခင်ကြီး၊ ဘာဘာကြီး " စတဲ့စတဲ့ စကားလုံးတွေနဲ့ ဆိုလိုတဲ့ အဓိပ္ပာယ်ကိုပဲ ထိုခေတ်ရှိ မုရှ်ရိက်တွေက إِلٰهٌ ဆိုတဲ့ စကားလုံးရဲ့ အဓိပ္ပာယ်အဖြစ်သတ်မှတ်ကြခဲ့တယ်။ ထိုအခါ တမန်တော်မြတ်ﷺက ၎င်းတို့ထံ စေလွှတ်ခြင်းခံရပြီး لَا إِلٰهَ إِلَّا اللّٰهُ – တစ်ပါးတည်းသော အလ္လာဟ် ကိုသာ إِلٰهٌအရှင်အဖြစ် သတ်မှတ်ပြီး ကိုးကွယ်ရမယ်လို့ ဖိတ်ခေါ် ခဲ့တယ်။

သူတို့ရဲ့ အဲဒီအတွေးကို ဖျက်သိမ်းဖို့ တမန်တော်မြတ်ﷺ ကြွမြန်းလာတယ်။ ပြီးနောက် သောင်ဟီးဒ်စကား (ဆိုလိုတာက لَا إِلٰهَ إِلَّا اللّٰهُ )ဘက်ကို ဖိတ်ခေါ်ခဲ့တယ်။ ဒီစကားကို နှုတ်လျှာနဲ့ ဖတ်လိုက်တာနဲ့ ပြီးသွားပြီလို့ တမန်တော်က မဆိုလိုခဲ့ဘူး။ အဲဒီစကားရဲ့ ဆိုလိုရင်းကိုပါ နှလုံးသားနဲ့ ဝန်ခံရမယ်လို့ ဆိုလိုခဲ့ပါတယ်။

## ~~အထင်အလွဲများကို ချေဖျက်ခြင်း~~

တမန်တော်မြတ်ﷺရဲ့ ဆိုလိုရင်းက သူတို့ ကိုးကွယ်နေတဲ့ အရာအားလုံးကို စွန့်လွှတ်ပြီး အလ္လာဟ်တစ်ပါးတည်းကိုပဲ ကိုးကွယ်ရမယ်၊ ကိုးကွယ်ခံနေရတဲ့ အရာ အားလုံးနဲ့ မိမိတို့ဟာ မသက်ဆိုင်တော့ဘဲ အလ္လာဟ်တစ်ပါးတည်းကိုသာ အရှင်အဖြစ် သတ်မှတ်ရမယ်လို့ ဖြစ်ကြောင်းကို အဲဒီကာဖိရ်၊ မုရှ်ရိက် တွေက ကောင်းကောင်းကြီး သိခဲ့ကြတယ်။ ဒါကြောင့်လည်း တမန်တော် က لَا إِلٰهَ إِلَّا اللهُ ကို တင်ပြတဲ့အခါ သူတို့က ချက်ချင်းပဲ သံကုန်ဟစ် ငြင်းပစ် ကြတော့တယ်။

أَجَعَلَ الْاٰلِهَةَ إِلٰهًا وَّاحِدًا ۖ إِنَّ هٰذَا لَشَيْءٌ عُجَابٌ ۝٥

ၚင်းသည် ကိုးကွယ်ရာအမြောက်အမြားကို ကိုးကွယ်ရာတစ်ပါး တည်း ပြုလုပ်လိုက်သလော။ အမှန်စင်စစ် ဤသည် အလွန်အံ့သြဖွယ် ရာတစ်ခုဖြစ်သည်။" (ကုရ်အာန် – ၃၈း၅)

အခုအသင် သိပါပြီ။ ကာဖိရ်မုရှ်ရိက်တွေတောင် တမန်တော်မြတ် ﷺရဲ့ ဆိုလိုချက်ကို သိခဲ့တယ်ဆိုရင် ယနေ့ ကိုယ့်ကိုယ်ကိုယ် မွတ်စ်လင်မ် ပါဆိုပြီး ကြွေးကြော်နေသူက ဒီစကားရဲ့ အနက်အဓိပ္ပာယ်ကို မသိဘူး ဆိုတာ အရမ်းကို အံ့သြဖို့ကောင်းပါတယ်။ အနက်အလိုသဘောကို နားမ လည်ရုံတင်မကပါဘူး။ အဲဒီကလိမဟ်ရဲ့အနက်အလိုသဘောတစ်ခုခုကို နှလုံးသားနဲ့ သိမှတ်ယုံကြည်စရာမလိုဘဲ ပါးစပ်နဲ့ဆိုလိုက်ရုံနဲ့ ပြီးသွားပြီလို့ ထင်နေကြသေးတယ်။

မသိတဲ့လူ တွေထဲမှာ အကျွမ်းကျင်ဆုံးလူ (အနူတောက ကိုလူချော)က ဆိုရင် ကလိမဟ်ရဲ့အဓိပ္ပာယ်အနက်ကို ဒီလို တောင် သဘောပေါက်လိုက်သေးတယ်။ "အလ္လာဟ်မှအပ အခြားဖန်ဆင်း သူမရှိ၊ ကျွေးမွေးသူမရှိ၊ စီမံဆောင်ရွက်သူမရှိ"တဲ့။ အဲဒီလိုလူဆီကနေ ဘာကောင်းခြင်းတွေကို မျှော်လင့်ရမလဲ။ ဘာလို့လဲဆိုရင် မသိမိုက်မဲတဲ့

## ~~အထင်အလွဲများကို ချေဖျက်ခြင်း~~

ကာဖိရ်တွေကတောင် ကလိမဟ်ရဲ့သဘောကို သူ့ထက်ပို နားလည်နေသေးတယ်လေ။(ဘာလို့လဲဆိုတော့ အလ္လာဟ်မှအပ အခြားဖန်ဆင်းသူမရှိ၊ ကျွေးမွေးသူမရှိ၊ စီမံဆောင်ရွက်သူမရှိ”ဆိုတာကို တမန်တော့်ခေတ်က မုရှ်ရိက်တွေက လက်ခံပြီးသားပဲလေ။ သူတို့လက်မခံတာက ကိုးကွယ်ခံထိုက်တဲ့အရှင်ဟာ အလ္လာဟ်တစ်ပါးတည်းသာဖြစ်တယ် ဆိုတဲ့အချက်ကိုပါပဲ။)

ကျွန်ုပ်တင်ပြခဲ့တဲ့အရာတွေကို အသင် ကောင်းစွာနားလည်သဘောပေါက်လျှင်၊ إِنَّ اللّٰهَ لَا يَغۡفِرُ اَنۡ يُّشۡرَكَ بِهٖ وَ يَغۡفِرُ مَا دُوۡنَ ذٰلِكَ لِمَنۡ يَّشَآءُ အမှန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် အရှင်မြတ်နှင့် (အခြားတစ်စုံတစ်ရာကို) တွဲဖက်ကိုးကွယ်မှုကို လွတ်ငြိမ်းချမ်းသာခွင့် လုံးဝပေးတော်မူမည်မဟုတ်ပေ။ ၎င်းပြင် ထိုတွဲဖက် ကိုးကွယ်ခြင်းမှလွဲ၍ အခြားပြစ်မှုများကိုမူ အရှင်မြတ်အလိုရှိတော်မူသောသူကို လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူမည်။” လို့ အာယတ်တော်ထဲမှာ မိန့်ဆိုထားတဲ့ ရှိရ်က်တုဖက်ကိုးကွယ်ခြင်းကို အသင်သိပြီဆိုလျှင်၊ နဗီရစူလ်တစ်ပါး တိုင်းကို ချီးမြှင့်ပြီး စေလွှတ်ခဲ့တဲ့၊ တစ်ခုတည်းအဖြစ် လက်ခံအတည် ပြုခြင်းခံရတဲ့ အလ္လာဟ်သာသနာတော်ကို အသင်သိပြီဆိုလျှင်၊ လူအများစု မသိကြတော့ပြီဖြစ်တဲ့ ဤအရာကို အသင်က သိပြီဆိုလျှင်တော့ အသင့်အတွက် အကျိုးကျေးဇူးနှစ်ခုရှိပါတယ်။ တစ်ခုက အသင့်အပေါ်မှာ အလ္လာဟ်အရှင်မြတ်ရဲ့ကရုဏာနဲ့ အလ္လာ့ဟ်ကျေးဇူးရှိတဲ့အတွက်ကြောင့်အသင်ဝမ်းသာလိုက်ပေတော့။ အလ္လာဟ်အရှင် မြတ်မိန့်တော်မူပါတယ်။

قُلۡ بِفَضۡلِ اللّٰهِ وَبِرَحۡمَتِهٖ فَبِذٰلِكَ فَلۡيَفۡرَحُوۡا ؕ هُوَ خَيۡرٌ مِّمَّا يَجۡمَعُوۡنَ ﴿۵۸﴾

(အို– တမန်တော်) အသင်ပြောလိုက်ပါ– (ထိုအရာများသည်) အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်နှင့် အရှင်မြတ်၏ သနားကရုဏာတော်ကြောင့်

ဖြစ်သည်။ ထိုအရာများကို အကြောင်းပြု၍ သူတို့သည် ဝမ်းမြောက် ဝမ်းသာဖြစ်သင့်သည်။ ထို (ကျေးဇူး၊ ကရုဏာတော်)များသည် သူတို့စု ဆောင်းနေကြသော အရာ(လောကီပစ္စည်း)များထက် သာပိုကောင်း သည်။ (ကုရ်အာန် – ၁၀း၅၈)

နောက်ထပ် အကျိုးအမြတ်တစ်ခုကတော့ ကြီးမားတဲ့ စိုးရိမ်မှုပဲ ဖြစ်တယ်။ (အသင် ကြောက်ရွံ့စိုးရိမ်တတ်လာမည်။) ဘာဖြစ်လို့လဲ ဆိုတော့ ရှိရ်က်ဆိုတဲ့အရာက ဘယ်လောက်ကြီးတဲ့ အပြစ်လဲဆိုလျှင် လူသားတစ်ယောက်ဟာ စကားလေးတစ်ခွန်း မှားပြောလိုက်တာနဲ့ပဲ ကာဖိရ်ဖြစ်သွားနိုင်တယ်လေ။ အဲဒီစကားရဲ့ ဆိုးကျိုးကို သူမသိလည်း အဲဒါအကြောင်းပြချက် မဟုတ်ဘူး။ အဲဒီ မသိခဲ့ပါဘူးဆိုတဲ့အကြောင်းပြ ချက်က လက်ခံခြင်းမခံရဘူး။ အလ္လာဟ်နဲ့ နီးစပ်လိုသောစိတ်ကြောင့် ပြောလိုက်တဲ့ အဲဒီစကားက သူ့ကို မွှရိုရိက်တွေရဲ့ စာရင်းထဲမှာ ပါဝင်သွား စေတယ်။ ဒီအကြောင်းနဲ့ ပတ်သက်ပြီး မူစာနဗီရဲ့ အုပ်စုအကြောင်း ဖော်ပြသင့်ပါတယ်။ သူတို့က အသိတရားရှိပါလျက် မူစာနဗီကို ဒီလို တောင်းဆိုမှုတွေ ပြုခဲ့ကြတယ်။

اجْعَل لَّنَا إِلَٰهًا كَمَا لَهُمْ آلِهَةٌ

"အသင်သည် ကျွန်ုပ်တို့အတွက်လည်း သူတို့တွင်ရှိသော ကိုးကွယ်ရာများကဲ့သို့ ကိုးကွယ်ရာတစ်ဆူ ပြုလုပ်ပေးပါ။"

(ကုရ်အာန် – ၇း၁၃၈)

ဒီရှုထောင့် အသင့်ရှေ့မှာ ရောက်လာပြီဆိုတော့ အသင်ပိုပြီး ကြောက်ရွံ့စိုးရိမ်တတ် လာလိမ့်မယ်။

ဒါလည်း မှတ်ထားပါဦး။ အလ္လာဟ်အရှင်မြတ်ဟာ ဒီသောင်ဟီးဒ် ကို ချီးမြှင့်ပြီး ဘယ်နဗီကိုပဲ ဖြစ်ဖြစ်၊ စေလွှတ်တဲ့အခါ သူ့အတွက် ရန်သူပါ

တစ်ခါတည်း ဖန်တီးပေးလိုက်လေ့ရှိတယ်။

وَ كَذٰلِكَ جَعَلْنَا لِكُلِّ نَبِيٍّ عَدُوًّا شَيٰطِيْنَ الْاِنْسِ وَ الْجِنِّ يُوْحِيْ بَعْضُهُمْ اِلٰى بَعْضٍ زُخْرُفَ الْقَوْلِ غُرُوْرًا

"ထို့ပြင် ထိုကဲ့သို့ပင် ငါအရှင်မြတ်သည် တမန်တော်တိုင်းအတွက် လူရှိုင်သွာန်နှင့် ဂျင်န်ရှိုင်သွာန်များကို ရန်သူများအဖြစ် ပြုလုပ်ထားတော်မူသည်။ ထိုရှိုင်သွာန်များထဲမှ အချို့သူများသည် အချို့သူများထံသို့ အပြင်ပန်းလှသော နှစ်လိုဖွယ်စကားများကို လှည့်ဖြားရန် ထည့်သွင်းလေ့ရှိကြသည်။" (ကုရ်အာန်-၆း၁၁၂)

သောင်ဟီးဒ်ရဲ့ ရန်သူတွေထဲမှာ တချို့ အလွန်ပညာရှိတတ်တဲ့ ပညာရှင်တွေ ရှိတယ်။ သူတို့ထံမှာ စာအုပ်တစ်ပုံတစ်ခေါင်းနဲ့ အထောက်အထားအမြောက်အမြား ရှိနေတတ်တယ်။

فَلَمَّا جَآءَتْهُمْ رُسُلُهُمْ بِالْبَيِّنٰتِ فَرِحُوْا بِمَا عِنْدَهُمْ مِّنَ الْعِلْمِ

ထို့နောက် သူတို့၏ တမန်တော်များသည် သူတို့ထံသို့ ထင်ရှားသော သက်သေသာဓကများ ယူဆောင်လာခဲ့ကြသည့်အခါ သူတို့သည် သူတို့ထံတွင်ရှိနေသောပညာနှင့် ပတ်သက်၍ ပျော်မြူးလျက် မော်ကြွားခဲ့ကြသည်။" (ကုရ်အာန်-၄၀း၈၃)

ဖြောင့်မတ်တဲ့ လမ်းပေါ်မှာ လျှောက်နေသူတွေကို လမ်းမှားစေဖို့အတွက် မိမိတို့အသိပညာနဲ့ အထောက်အထားတွေကို အသုံးချပြီး ကြိုးပမ်းနေတဲ့ အလ္လာဟ်ရန်သူဟာ အလ္လာဟ်ထံကိုတိုက်ရိုက်ရောက်နိုင်တဲ့ လမ်းမှာ မုချရှိနေတယ်ဆိုတာကို အသင်သိရပြီဆိုတော့ အသင့်အတွက် လက်နက်သဖွယ် အသုံးဝင်မဲ့ သာသနာ့အသိပညာကို သင်ရန် အရေးကြီးပြီပေါ့။ ဒါမှ လူသားထုတစ် ရပ်လုံးကို လမ်းမှားအောင်လုပ်မယ်လို့

## ~~အထင်အလွဲများကို ချေဖျက်ခြင်း~~

အလ္လာဟ့်ရှေ့တော်မှောက်မှာ ကြုံးဝါးခဲ့တဲ့ ရှိုင်သွာန်နဲ့ အပေါင်းအပါတွေကို ထိုလက်နက်နဲ့ တိုက်ခိုက်နိုင်မယ်။

لَاَقْعُدَنَّ لَهُمْ صِرَاطَكَ الْمُسْتَقِيْمَ ﴿١٦﴾ ثُمَّ لَاٰتِيَنَّهُمْ مِّنْۢ بَيْنِ اَيْدِيْهِمْ وَ مِنْ خَلْفِهِمْ وَ عَنْ اَيْمَانِهِمْ وَعَنْ شَمَآئِلِهِمْ ؕ وَلَا تَجِدُ اَكْثَرَهُمْ شٰكِرِيْنَ ﴿١٧﴾

"အိဗ်လီစ် ကပြောသည်- "အရှင်မြတ်သည် ကျွန်ုပ်အား လမ်းမှားစေတော်မူခြင်းကြောင့် အမှန်စင်စစ် ကျွန်ုပ်သည်လည်း သူတို့(အား လမ်းမှားစေရန်)အတွက် အရှင်မြတ်၏ လမ်းမှန်တွင် မုချ(မှောင်ခိုပြီး)ထိုင်နေမည်ဖြစ်သည်။" "ထို့နောက် ကျွန်ုပ်သည် သူတို့ထံသို့ သူတို့၏ရှေ့မှ လည်းကောင်း၊ သူတို့၏ နောက်မှလည်းကောင်း၊ သူတို့၏ လက်ယာဘက်မှလည်းကောင်း၊ သူတို့ ၏ လက်ဝဲဘက်မှလည်းကောင်း (အဘက်ဘက်မှ) အမှန်ပင် ဝင်ရောက်မည်ဖြစ်သည်။ ထို့နောက် အရှင်မြတ်သည် သူတို့ထဲမှ အများစုအား ကျေးဇူးသိတတ်သူများအဖြစ် တွေ့ရတော့မည် မဟုတ်ပေ"။ (ကုရ်အာန်-၇း၁၆၊၁၇)

ဘယ်လိုပဲ ဖြစ်ဖြစ် သူတို့နဲ့ အသင်တိုက်ခိုက်ရတဲ့အခါ သူတို့ရဲ့ အထောက်အထားတွေကို ချေပတဲ့အနေနဲ့ အလ္လာဟ်ပေးထားတဲ့ ကုရ်အာန်ကျမ်းလာ အထောက်အထားတွေကို အသင် အသုံးပြုပါက ဘာမှ ပူပန်စရာ၊ သောကဖြစ်စရာ မလိုတော့ပါဘူး။

اِنَّ كَيْدَ الشَّيْطٰنِ كَانَ ضَعِيْفًا ﴿٧٦﴾

"စင်စစ် ရှိုင်သွာန်၏ လှည့်ကွက်(ကြံစည်မှု)သည် ချည့်နဲ့လှသည်။" (ကုရ်အာန်-၄း၇၆)

မှတ်ထားပါ။ သောင်ဟီးဒ်တရားကို လက်ခံထားသူ သာမန်လူ တစ်ယောက်က ထောင်ပေါင်းများစွာသော မုရှ်ရိက်ပညာရှင်တွေကို အောင်နိုင်မယ်။

## ~~အထင်အလွဲများကို ချေဖျက်ခြင်း~~

وَ اِنَّ جُنۡدَنَا لَهُمُ الۡغٰلِبُوۡنَ ﴿۱۷۳﴾

"ထို့ပြင် အမှန်စင်စစ် ငါအရှင်မြတ်၏ တပ်သားများပင် လွှမ်းမိုးသူများဖြစ်ကြမည်။" (ကုရ်အာန်-၃၇း၁၇၃)

ဒီအာယသ်တော်ရဲ့ အလိုသဘောကတော့- အသင်တို့သည် ဓါးလှံစစ်ပွဲ၌သာ ၎င်းတို့ကို အောင်နိုင်မည်ဟု မဆိုလိုပါ။ အထောက်အထားနှင့် စကားအရာမှာပါ သူတို့ကို အသင်တို့ အောင်နိုင်မယ်လို့ ဆိုလိုတယ်။

ကိုယ့်ကိုယ်ကိုယ် မုအ်မင်န်လို့ ကြွေးကြော်ပြီး အထောက်အထား မရှိတဲ့ လူနဲ့ ပတ်သက်၍သာ စိုးရိမ်စရာရှိတယ်။

تِبۡيَانًا لِّكُلِّ شَىۡءٍ وَّ هُدًى وَّ رَحۡمَةً وَّ بُشۡرٰى لِلۡمُسۡلِمِيۡنَ ﴿۸۹﴾

"(ကုရ်အာန်)ကျမ်းတော်မြတ်ကို အရာအားလုံး၏ ရှင်းလင်းချက်အဖြစ်လည်းကောင်း၊ မွတ်စ်လင်မ်များအတွက် လမ်းမှန်ညွှန်ကြားပြသချက်အဖြစ်လည်းကောင်း၊ ကရုဏာတော်အဖြစ် လည်းကောင်း၊ သတင်းကောင်းအဖြစ်လည်းကောင်း ချပေးတော်မူခဲ့သည်။" (ကုရ်အာန် ၁၆း၈၉)

အလ္လာဟ်အရှင်မြတ်ဟာ မိမိကျမ်းတော်နဲ့ ကျွန်ုပ်တို့အပေါ် ကျေးဇူးပြုခဲ့တယ်။ မဟုတ်မမှန်တဲ့ လူတစ်ယောက်က အထောက်အထားတစ်ခု ယူလာလျှင် အဲဒီအထောက်အထား၏ မမှန်ကန်ကြောင်းကို ရှင်းပြပြီးနောက် ပယ်ချချေဖျက်ပြီးပါထားတဲ့အရာ ကုရ်အာန်ထဲမှာ ရှိပြီးသားပါပဲ။

အလ္လာဟ်အရှင်မြတ် မိန့်တော်မူတယ်။

وَلَا يَأْتُوْنَكَ بِمَثَلٍ اِلَّا جِئْنٰكَ بِالْحَقِّ وَ اَحْسَنَ تَفْسِيْرًا ﴿٣٣﴾

ထို့ပြင် (အနည်းငယ်ချင်း ဆိုင်းငံ့ချပေးရသည့်အကြောင်းရင်းများထဲမှ တစ်ခုမှာ) သူတို့ သည် အသင့်ထံသို့ (စောဒကတက်ရန်) စကားပုံပမာတစ်စုံတစ်ခု ယူဆောင်လာကြသည့်အခါ ငါအရှင်မြတ်သည် တိကျမှန်ကန်သော ရှင်းလင်းဖော်ပြချက်နှင့် ပိုမိုကောင်းမွန်သော ဖြေကြား ချက်ကို အသင့်ထံပို့ဆောင်တော်မူခဲ့(ရန် အတွက်ဖြစ်)သည်။”

(ကုရ်အာန်- ၂၅း၂၃)

အချို့အဌကထာပညာရှင်တွေက ဆိုကြတယ်။ ဒီအာယသ်တော်ဟာ ကိယာမသ်တိုင် လူတွေယူလာမဲ့ မဟုတ်မမှန်တဲ့ အထောက်အထားအားလုံးနှင့် ဆိုင်ပါတယ်။ ယနေ့ခေတ်ရှိ မုရှ်ရိက်တွေက ကျွန်ုပ်တို့ကို စောဒကတက်၊ တိုက်ခိုက်ရန် အထောက်အထားအဖြစ် မှီငြမ်းတဲ့ အရာတွေကို အဖြေပေးတဲ့အနေနှင့် မိမိကျမ်းထဲမှာ အလ္လာဟ် မိန့်ထားတဲ့ အရာတွေထဲက တချို့ကို ကျွန်တော်တင်ပြပေးပါမယ်။

မှားယွင်းနေကြတဲ့သူတွေကို အဖြေပေးနည်း နှစ်နည်းရှိတယ်။ လိုရင်းတိုရှင်းနဲ့ အကျယ်တဝင့် ဆိုပြီး ဖြစ်ပါတယ်။ လိုရင်းတိုရှင်းကတော့ လိုက်မီတဲ့ ဉာဏ်ရည်ရှိသူအတွက်တော့ အကျိုးအလွန် များပြီး အလွန်လည်းထိရောက်ပါတယ်။ အဲဒါကတော့ အလ္လာဟ်အရှင်ရဲ့ ဒီအမိန့်တော်ပါပဲ။

هُوَ الَّذِيْٓ اَنْزَلَ عَلَيْكَ الْكِتٰبَ مِنْهُ اٰيٰتٌ مُّحْكَمٰتٌ هُنَّ اُمُّ الْكِتٰبِ وَ اُخَرُ مُتَشٰبِهٰتٌ ؕ فَاَمَّا الَّذِيْنَ فِيْ قُلُوْبِهِمْ زَيْغٌ فَيَتَّبِعُوْنَ مَا تَشَابَهَ مِنْهُ ابْتِغَآءَ الْفِتْنَةِ وَ ابْتِغَآءَ تَاْوِيْلِهٖ ؔ

အရှင်မြတ်သည် အသင်(တမန်တော်)၏အပေါ် ကုရ်အာန်ကျမ်း

တော်မြတ်ကိုပို့ချတော်မူသောအရှင်ဖြစ်တော်မူသည်။ ထိုကျမ်းတော်မြတ်၏အချို့ အာယသ်တော်များသည် ထင်ရှားပြတ်သားစွာ အဓိပ္ပာယ်ထွက်သော အာယသ်တော်များ ဖြစ်သည်။ ထိုအာယသ်တော်များသည် ကုရ်အာန်ကျမ်းတော်မြတ်၏ အဓိကအရင်းအမြစ်ဖြစ်သည်။ ၎င်းပြင် အခြားအာယသ် တော်များသည် အဓိပ္ပာယ် အတိအကျပေါ်လွင်ထင်ရှားခြင်းမရှိသော အာယသ်တော်များဖြစ်သည်။ ထို့နောက် မည်သို့ပင်ဖြစ်စေ စိတ်နှလုံးများထဲတွင် အကောက်ရှိသောသူများသည် (လူများအား) လမ်းမှားစေလိုသည့်အတွက်နှင့် အာယသ်တော်များ၏ အဓိပ္ပာယ်ကို အမှား ကောက်လိုသည့်အတွက် ၎င်းအဓိပ္ပာယ်အတိအကျ ပေါ်လွင်ထင်ရှားခြင်းမရှိသော အာယသ်တော်များကိုသာ လိုက်စားကြသည်။

(ကုရ်အာန် - ၃း၇)

တမန်တော်မြတ်ﷺထံမှ ဆင့်ပြန်လာကြောင်း မှန်ကန်တဲ့ ဟဒီးဆ်တော်တွင်လည်း ဤသို့ လာရှိထားပါတယ်။ တမန်တော်မြတ်ﷺက မိန့်ပါတယ်။ ကုရ်အာန်ကျမ်းတော်ထဲမှ အတိအကျ မသိရသော အရာများနောက်သို့ လိုက်သောသူတွေကို အသင်တို့ မြင်တွေ့ရပါက ၎င်းတို့ကို သတိထားကြ။ (ရှောင်ကြဉ်ကြ)။

အဲဒီအတွက် ဥပမာ(ကို ကြည့်ပါ)။ မုရ်ရိုက်တချို့က အသင့်ကို ဤသို့ပြောဆိုလာကြသောအခါ

أَلَآ إِنَّ أَوْلِيَآءَ ٱللَّهِ لَا خَوْفٌ عَلَيْهِمْ وَلَا هُمْ يَحْزَنُونَ

"သတိပြုကြပါ၊ အမှန်စင်စစ် အလ္လာဟ်အရှင်မြတ်၏ အဆွေတော်များအပေါ်တွင် ကြောက်ရွံ့စိုးရိမ်စရာလည်း ရှိမည်မဟုတ်ပေ၊ ၎င်းနောက် သူတို့သည် ဝမ်းနည်းပူဆွေးကြရမည်လည်း မဟုတ်ပေ။"

(ကုရ်အာန် - ၁၀း၆၂)

## ~~အထင်အလွဲများကို ချေဖျက်ခြင်း~~

ရှဖာအသ်(အသနားခံပေးခြင်း)ဆိုတာ တကယ်ရှိတယ်။ နဗီအပေါင်းတို့သည်လည်း အလ္လာဟ့်ထံပါးမှာ ထူးခြားသောအဆင့် ရှိသူတွေဖြစ်ကြတယ်။ သို့မဟုတ် သူက မိမိရဲ့ မှားယွင်းတဲ့ ကိစ္စကို ဟုတ်ကြောင်းမှန်ကြောင်းပြဖို့အတွက် တမန်တော်မြတ်ﷺရဲ့ ဩဝါဒတော် တစ်ခုခုကို ပြောဆိုတင်ပြလာပြီး သူပြောဆိုတဲ့ စကားကို အသင်က နားမလည်နိုင်ဘူးဆိုလျှင် (အသင်အဲဒီလောက် အရည်အချင်းမရှိဘူးဆိုလျှင်) သူ့ကို ဒီလိုပြန်ပြီး ဖြေကြားလိုက်ပါ။

"အလ္လာဟ်အရှင်မြတ်က မိမိကျမ်းစာအုပ်ထဲမှာ မိန့်ထားတော်မူတယ်။ နလုံးသားမှာ အကောက်ရှိသူတွေဟာ ရှင်းလင်းပြတ်သားတဲ့ အရာကိုစွန့်ပြီး အတိအကျမသိရတဲ့ အရာတွေနောက်ကို လိုက်ကြတယ်။ မုရှ်ရိက်တွေဟာ အလ္လာဟ်ကို မွေးမြူဖန်ဆင်းရှင်အဖြစ် လက်ခံသော်လည်း ၎င်းတို့ ကာဖိရ်ဖြစ်ရခြင်းမှာ ကောင်းကင်တမန်များ၊ နဗီများနှင့် သူတော်စင်များထံချဉ်းကပ်ပြီးနောက်

وَيَقُولُونَ هَٰؤُلَاءِ شُفَعَاؤُنَا عِندَ اللَّهِ

"ဤအရာများသည်ကျွန်ုပ်တို့အား အလ္လာဟ်အရှင်မြတ်ထံတော်၌ ကြားဝင်အသနားခံ ပေးမည့်အရာများပင် ဖြစ်ကြသည်။(ကုရ်အာန်၁၀း ၁၈) ဟု ပြောဆိုကြသောကြောင့် ဖြစ်တယ်။ ဒီအာယသ်တော်ဟာ မည်သူမျှ အဓိပ္ပာယ် လွဲအောင်မလုပ်နိုင်တဲ့ ထင်ရှားပြတ်သားတဲ့ အာယတ်တော်ဖြစ်တယ်။

သို့သော် အို-မုရှ်ရိက်၊ ခင်ဗျား အထောက်အထားအဖြစ်ပေးနေတဲ့ ကုရ်အာန်နဲ့ ဟဒီးဆ်တွေရဲ့အနက်ကို ကျွန်တော်မသိပေမဲ့ အချက်တစ်ချက်ကို ခင်ဗျားသေချာ မှတ်ထားပါ။ အဲဒါကတော့ အလ္လာ့ဟ် စကားတော်ဟာ အချင်းချင်း ဆန့်ကျင်ဘက် မဖြစ်နိုင်သလို မှန်ကန်တဲ့

ဟဒီးဆ်တစ်ပုဒ်ကလည်း အလ္လာ့ဟ်စကားတော်နဲ့ ဆန့်ကျင်ဘက်မဖြစ်နိုင်ဘူး။ သည်အဖြေဟာ အလွန်ကောင်းပြီး ပါးစပ်ပိတ်စေနိုင်တဲ့အဖြေဖြစ်တယ်။ ဒါပေမဲ့ သည်လို အဖြေမျိုးကို အလ္လာ့ဟ်ဘက်က သောင်ဖီးက်ပေးထားတဲ့ လူတွေပဲ နားလည်နိုင်တယ်။ သို့ဖြစ်ရာ ဒီအဖြေကို အထင်မသေးပါနဲ့။ ဘာကြောင့်လဲဆိုတော့ သူက သည်အာယသ်တော်လိုပဲ ဖြစ်တယ်။

وَمَا يُلَقّٰهَآ اِلَّا الَّذِيْنَ صَبَرُوْا ۚ وَمَا يُلَقّٰهَآ اِلَّا ذُوْحَظٍّ عَظِيْمٍ ﴿٣٥﴾

"ထို့ပြင် ထိုအကောင်းဆုံးနည်းလမ်းသည် သည်းခံသည့်သူများသာ ပေးသနားခြင်းခံကြရသည်။ ထို့ပြင် ထိုအရာကို ကြီးကျယ်သောနဖူးစာရှင်သာ ပေးသနားတော်မူခြင်းခံရသည်။"(ကုရ်အာန်-၄၁း၃၅)

အကျယ်တဝင့် ဖြေနည်းကတော့ သည်လောက်ပဲ မှတ်ထားပါ။ အလ္လာ့ဟ်ရန်သူတွေဟာ အလ္လာ့ဟ်သာသနာပေါ်မှာ စောဒကအမြောက်အများတက်ကြတယ်။ သူတို့ရဲ့ ရည်ရွယ်ချက်က အမှန်တရားပေါ်မှာ လျှောက်လှမ်းသူတွေကို ပိတ်ဆို့တားဆီးဖို့ပဲ ဖြစ်တယ်။ သူတို့ရဲ့ တချို့စောဒကတွေကတော့ သည်လိုပဲ ဖြစ်တယ်။

ကျွန်တော်တို့ဟာ အလ္လာဟ်နဲ့ယှဉ်ပြီး ဘယ်သူကိုမှ မကိုးကွယ်ရုံမက ဖန်ဆင်းမွေးမြူ စောင့်ရှောက်သူဟာ အလ္လာဟ်တစ်ပါးတည်းသာဖြစ်တယ်။ ကောင်းကျိုး၊ဆိုးကျိုးပြုသူဟာလည်းထိုအရှင်တစ်ပါးတည်းသာဖြစ်တယ်။ အလ္လာဟ်တစ်ပါးပဲ ရှိတယ်။ အလ္လာ့ဟ်မှာ တုဖက်နှိုင်းယှဉ်သူမရှိ စသည်ဖြင့် ကျွန်တော်သက်သေခံပါတယ်။

တမန်တော်မြတ်ﷺ ကိုယ်တိုင်တောင်မှ ကိုယ့်ဘာသာကိုယ်ကောင်းကျိုးဆိုကျိုးမပြုနိုင်ဘူး။ တခြားအဗ်ဒွလ်ကာဒိရ်နဲ့ သူတော်စင်ကြီးတွေဆိုလျှင် ဝေးစွ။ ဒါတွေအား လုံးကို ကျွန်တော်လက်ခံပါတယ်လို့

ပြောပြီးနောက် စကားကို သည်လို ပြန်လှည့်ပြီး ပြောတတ်သည်။ "ကျွန်တော်က အကုသိုလ်ကောင်ပါ။ သူတော်စင်တွေရဲ့အဆင့်က အလ္လာ့ဟ်ထံမှာ မြင့်မားလှပါတယ်။ တကယ်တမ်းတော့ သူတို့ကိုကြားခံထားပြီး ကျွန်တော်ဟာ အလ္လာ့ဟ်ထံကပဲ တောင်းတာပါ။"

အကယ်၍ တစ်ဦးတစ်ယောက်က သည်လို စောဒက တက်လာရင် အထက်မှာ ကျွန်တော် တင်ပြခဲ့တဲ့ အတိုင်းပဲ သူ့ကို အဖြေပေးလိုက်ပါ။ "တမန်တော်မြတ်ﷺစစ်တိုက်ခဲ့တဲ့ လူတွေလည်း ဒါတွေအားလုံးကို ဝန်ခံခဲ့တာပဲ။ ရုပ်တုတွေမှာ ဘာအစွမ်းအစမှ မရှိဘူး။ အလ္လာ့ဟ်ထံမှာပဲ အသနားခံပေးဖို့ပဲ ဒီရုပ်တုတွေကိုကျွန်ုပ်တို့ တောင်းဆိုကြတာပါလို့ သူတို့လည်းပြောခဲ့တာပဲ။" ဒါတွေပြောပြီးနောက် သူ့ရှေ့မှာ ဒါတွေနဲ့ပတ်သက်တဲ့ အာယသ်တွေကို ဖတ်ပြီး ရှင်းလင်းချက်တွေကို ပြောပြပါ။

တကယ်လို့ သူကထက်ပြီး "ဒီအာယသ်တွေက ထိုသူတော်စင်တွေကို ကိုးကွယ်တဲ့လူတွေနဲ့ ပတ်သက်ပြီး ကျရောက်လာတာပဲ။ သူတော်ကောင်းတွေကနေ တစ်ဆင့် အလ္လာ့ဟ်ထံမှာ အသနားခံခိုင်းတာကို ရုပ်တုကိုးကွယ်တာနဲ့ ဘာဖြစ်လို့ နှိုင်းရတာလဲ။ နဗီတွေကို ဘာဖြစ်လို့ ရုပ်တုတွေလို့ ပြောရတာလဲ။" လို့ စောဒကတက်မယ်ဆိုရင်

သူ့ကို ပထမပုံစံနဲ့လည်း အဖြေပေးလို့ရတယ်။ ကာဖိရ်တွေကလည်း ဖန်ဆင်းမွေးမြူခြင်းအလုံးစုံကို အလ္လာဟ်တစ်ပါးတည်းကပဲ ပိုင်တယ်လို့ ပြောကြတယ်။ သူတို့ ရုပ်တုတွေဆီ သွားရတာဟာလည်း တကယ်တော့ အလ္လာ့ဟ်ထံမှာ မိမိတို့နဲ့ပတ်သက်ပြီး အသနားခံ ပေးခိုင်းမလို့ပဲဆိုတာကို ပြောပြပါ။ တကယ်လို့ သူကလက်ခံပြီးတဲ့နောက် သူ့လုပ်ရပ်နဲ့ ကာဖိရ်တွေရဲ့လုပ်ရပ်ဟာ မတူဘူးလို့ ပြောနေသေးတယ်ဆိုရင် သူ့ကို သည်လိုပြောလိုက်ပါ။ "ကာဖိရ်တွေထဲမှာ တချို့က ရုပ်တုတွေကို ဟစ်ခေါ်တသ ကြတယ်။ တချို့က ဝလီသူတော်စဉ်တွေကို

ဟစ်ခေါ်တသ ကြတယ်။ သူတို့နဲ့ပတ်သက်ပြီး အလ္လာဟ်က မိန့်ထားတယ်။

أُولَٰئِكَ الَّذِينَ يَدْعُونَ يَبْتَغُونَ إِلَىٰ رَبِّهِمُ الْوَسِيلَةَ أَيُّهُمْ أَقْرَبُ

ထိုသူများသည် ထိုကာဖိရ်များ ဟစ်ခေါ်နေကြသောသူများပင် ဖြစ်ကြသည်။ သူတို့သည် သူတို့ထဲမှ မည်သူသည် (အရှင်မြတ်နှင့်) အနီးကပ်ဆုံးဖြစ်လိမ့်မည်နည်းဟု သူတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်ထံတော်၌ နီးကပ်မှုကို ရှာဖွေဆည်းပူးနေကြသည်။”

(ကုရ်အာန် - ၁၇း၅၇)

တချို့ကာဖိရ်တွေက ခရစ်တော်အီစာ عليه السلام နဲ့ သူ့မိခင်ကို ဟစ်ခေါ် တသကြတယ်။

مَا الْمَسِيحُ ابْنُ مَرْيَمَ إِلَّا رَسُولٌ قَدْ خَلَتْ مِن قَبْلِهِ الرُّسُلُ وَأُمُّهُ صِدِّيقَةٌ كَانَا يَأْكُلَانِ الطَّعَامَ انظُرْ كَيْفَ نُبَيِّنُ لَهُمُ الْآيَاتِ ثُمَّ انظُرْ أَنَّىٰ يُؤْفَكُونَ ﴿٧٥﴾ قُلْ أَتَعْبُدُونَ مِن دُونِ اللَّهِ مَا لَا يَمْلِكُ لَكُمْ ضَرًّا وَلَا نَفْعًا وَاللَّهُ هُوَ السَّمِيعُ الْعَلِيمُ ﴿٧٦﴾

“မရ်ယမ်၏ သားတော် မစီဟ်သည် တမန်တော် တစ်ပါးသာ ဖြစ်သည်။ ထိုမရ်ယမ်၏သား မစီဟ်(အီစာ)၏ မတိုင်မီ၌လည်း တမန်တော်များ အမှန်ပင် ပွင့်ပေါ်ခဲ့ကြပြီးဖြစ်သည်။ ထို့ပြင် ထိုမစီဟ် (အီစာ)၏ မိခင်(မရ်ယမ်)သည် အလွန်မှန်ကန်သော အမျိုးသမီးတစ်ဦး ဖြစ်သည်။ ၎င်းတို့ (သားအမိ)နှစ်ဦးစလုံးသည် အစားအစာစားသုံးခဲ့ ကြသည်။ ငါအရှင်မြတ်သည် သူတို့(နတ်စ္စရာနီ)များ၏ရှေ့၌ သက်သေ အထောက်အထားများကို မည်သို့ရှင်းလင်းပြသသနည်း ဆိုသည်ကို အသင်ကြည့်ပါ။

၎င်းပြင် ထပ်မံ၍ သူတို့သည် (အမှန်တရားကိုစွန့်ကာ) အဘယ်

သို့ လှည့်သွားကြသနည်း ဆိုသည်ကိုလည်း အသင်(တမန်တော်)ကြည့် လိုက်ပါ။” (အို- တမန်တော်) အသင်သည် (နတ်စွဲရာနီများအား)ပြောလိုက် ပါ၊ အသင်တို့သည်အလ္လာဟ်အရှင်မြတ်မှလွဲ၍ အသင်တို့အား အကျိုးယုတ် စေခြင်းနှင့် အကျိုးဖြစ်ထွန်းစေခြင်းကို ပြုနိုင်စွမ်းမရှိသောအရာများအား ကိုးကွယ်နေကြသလော။ ထို့ပြင် အလ္လာဟ်အရှင်မြတ်သည်သာလျှင် အကြွင်းမဲ့ကြားတော်မူသော အရှင်၊ အကြွင်းမဲ့သိတော်မူသော အရှင် ဖြစ်တော်မူသည်။ ” (ကုရ်အာန်-၅း၇၅၊ ၇၆)

وَ يَوْمَ يَحْشُرُهُمْ جَمِيْعًا ثُمَّ يَقُوْلُ لِلْمَلٰٓئِكَةِ اَهٰٓؤُلَآءِ اِيَّاكُمْ كَانُوْا يَعْبُدُوْنَ ﴿٤٠﴾ قَالُوْا سُبْحٰنَكَ اَنْتَ وَلِيُّنَا مِنْ دُوْنِهِمْ ۚ بَلْ كَانُوْا يَعْبُدُوْنَ الْجِنَّ ۚ اَكْثَرُهُمْ بِهِمْ مُّؤْمِنُوْنَ ﴿٤١﴾

ထို့ပြင် ထိုနေ့တွင် အရှင်မြတ်သည် သူတို့အားလုံးကို စုရုံး တော်မူပြီးနောက် ကောင်းကင်တမန်များအား “ဤသူများသည် အသင်တို့ အား ကိုးကွယ်ခဲ့ကြသလော”ဟု မေးမြန်းတော်မူမည်။ ကောင်းကင်တမန် များက ပြောဆိုကြလိမ့်မည်- အရှင်မြတ်သည် သန့်ပြန့်စင်ကြယ်တော် မူပါသည်။ ကျွန်ုပ်တို့သည် အရှင်မြတ်နှင့်သာ ပတ်သက်ကြပါသည်။ သူတို့နှင့် ပတ်သက်မှု မရှိကြပါ။ အမှန်စင်စစ် သူတို့သည် ဂျင်န်များကိုပင် ကိုးကွယ်ခဲ့ကြသည်။ သူတို့ထဲမှ အများစုသည် ဂျင်န်များကိုပင် ယုံကြည် သူများဖြစ်ခဲ့ကြပါသည်။” (ကုရ်အာန်-၃၄း၄၀၊၄၁)

وَ اِذْ قَالَ اللّٰهُ يٰعِيْسَى ابْنَ مَرْيَمَ ءَاَنْتَ قُلْتَ لِلنَّاسِ اتَّخِذُوْنِيْ وَ اُمِّيَ اِلٰهَيْنِ مِنْ دُوْنِ اللّٰهِ ؕ قَالَ سُبْحٰنَكَ مَا يَكُوْنُ لِيْٓ اَنْ اَقُوْلَ مَا لَيْسَ لِيْ ۗ بِحَقٍّ ؕ اِنْ كُنْتُ قُلْتُهٗ فَقَدْ عَلِمْتَهٗ ؕ تَعْلَمُ مَا فِيْ نَفْسِيْ وَلَآ اَعْلَمُ مَا فِيْ نَفْسِكَ ؕ اِنَّكَ اَنْتَ عَلَّامُ الْغُيُوْبِ ﴿١١٦﴾

## ~~အထင်အလွဲများကို ချေဖျက်ခြင်း~~

"တစ်ခါက အလ္လာဟ်အရှင်မြတ်သည် (ဤသို့)မိန့်ကြားတော်မူမည်– "အို–မရ်ယမ်၏သား အီစာ၊ အသင်သည် လူများအား အသင်တို့သည် အလ္လာဟ်အရှင်မြတ်နှင့် ဆန့်ကျင်၍ ကျွန်ုပ်နှင့် ကျွန်ုပ်၏မိခင်အားကိုးကွယ်ထိုက်သည့် အရှင်နှစ်ပါးအဖြစ် ပြုလုပ်ကြပါဟူ၍ ပြောကြားခဲ့သလော"။ ၎င်း(တမန်တော်အီစာ)က ပြောဆိုဖြေကြားမည်– "အရှင်မြတ်သည် သန့်ပြန့်စင်ကြယ်တော်မူပါသည်။ ကျွန်ုပ်မပြောထိုက်သောစကားကို ကျွန်ုပ်ပြောဆိုခွင့် လုံးဝမရှိပါ။ အကယ်၍ ကျွန်ုပ်သည် ထိုစကားကို ပြောဆိုခဲ့လျှင် အရှင်မြတ်သည် ထိုပြောဆိုမှုကို အမှန်ပင် သိတော်မူပြီးဖြစ်ပါသည်။ အရှင်မြတ်သည် ကျွန်ုပ်၏စိတ်ထဲ၌ရှိသမျှကို သိရှိတော်မူပါသည်။ သို့ရာတွင် ကျွန်ုပ်သည် အရှင်မြတ်၏ စိတ်ထဲရှိသည်ကို မသိပါ။ အမှန်စင်စစ် အရှင်မြတ်သည်သာ အကွယ်မှအရာအားလုံးကို အလွန်သိတော်မူသောအရှင် ဖြစ်တော်မူပါသည်။" (၅း၁၁၆)

ဒီအာယသ်တွေကို သူတို့ရှေ့မှာ ချပြပြီး၊ သူတို့ကို သည်လိုရှင်းပြပါ။

အသင်သိပြီလား၊ ရုပ်တုကိုးကွယ်တဲ့လူတွေကို ကာဖိရ်ဖြစ်တယ်လို့ အလ္လာဟ်က သတ်မှတ်သကဲ့သို့ သူတော်စင်တွေကို ဦးတည်ဆည်းကပ်သူတွေကိုလည်း အလ္လာဟ်က ကာဖိရ်လို့ပဲ သတ်မှတ်တယ်။ သူတို့ကို တမန်တော်မြတ်ﷺကလည်း စစ်တိုက်ခဲ့တယ်။

သည်အပေါ်မှာ တစ်ဦးတစ်ယောက်က "ထိုကာဖိရ်တွေက ရုပ်တုတွေဆီကနေခိုလှုံမှုကို တောင်းခံကြတယ်။ ငါတို့က အဲဒီလို မဟုတ်ဘူး။ ကောင်းကျိုး၊ ဆိုးကျိုးပေးနိုင်သူ၊ အရာရာကို စီမံဆောင်ရွက်ချယ်လှယ်သူဟာ အလ္လာဟ်တစ်ပါးတည်းပဲ ရှိတယ်ဆိုတာကို ငါတို့သက်သေခံတယ်။ ငါတို့ဘာမဆို အလ္လာဟ်ဆီကပဲ တောင်းခံတယ်။

သူတော်စင်တွေမှာ ဘာစွမ်းအားမှ မရှိဘူးဆိုတာလည်း ငါတို့လက်ခံတယ်။ ငါတို့က သူတို့ရဲ့ အကြောင်းခံနဲ့ အလ္လာဟ်ဆီမှာ အသနားခံရုံလေးပါပဲ။ တခြားဘာမှ မဟုတ်ပါဘူး။" လို့ စောဒကတက်ရင်...အဲဒါရဲ့အဖြေက တော့-

"အသင်တို့ရဲ့ စကားက ကာဖိရ်တွေရဲ့ စကားနဲ့ တစ်ထပ်တည်း တူဆင်နေတာပဲ" ပြီးတော့ အထောက်အထားအနေနဲ့ အသင်ဟာ ဒီ အာယသ်တော်တွေကို ဖတ်နိုင်ပါတယ်။

وَالَّذِيْنَ اتَّخَذُوْا مِنْ دُوْنِهٖٓ اَوْلِيَآءَ ۘ مَا نَعْبُدُهُمْ اِلَّا لِيُقَرِّبُوْنَآ اِلَى اللّٰهِ زُلْفٰى ۗ

"ထို့ပြင် အကြင်သူများသည် အရှင်မြတ်မှလွဲ၍ အခြားကာကွယ်စောင့်ရှောက်သူများ ပြုလုပ်ခဲ့ကြပြီး (ဤသို့ပြောဆိုကြသည်-)၎င်းတို့သည် ကျွန်ုပ်တို့အား အလ္လာဟ်အရှင်မြတ်နှင့် နီးကပ်စေရန်အတွက်သာ ကျွန်ုပ်တို့သည် ၎င်းတို့အား ကိုးကွယ်ကြပါသည်။" (ကုရ်အာန်၃၉း၃)

وَيَقُوْلُوْنَ هٰٓؤُلَآءِ شُفَعَآؤُنَا عِنْدَ اللّٰهِ ۗ

"၎င်းနောက် သူတို့က ပြောဆိုကြသည်-"ဤအရာများသည် ကျွန်ုပ်တို့အား အလ္လာဟ် အရှင်မြတ်ထံတော်၌ ကြားဝင်အသနားခံပေးမည့်အရာများပင် ဖြစ်ကြသည်။" (၁၀း၁၈)

မှတ်ထားပါဦး၊ ဒီစောဒက သုံးခုက သူတို့ထံမှာ အဓိကပဲ။ ဒါပေမဲ့ ထိုသုံးခုစလုံးရဲ့ အဖြေက ကုရ်အာန်ထဲမှာ ရှိပြီးသားပဲ ဆိုတော့ ကျန်တဲ့ စောဒကတွေရဲ့ အဖြေက ပိုလွယ်သွားပါပြီ။ အကယ်၍ သူက "အလ္လာဟ် အပြင် အခြားအရာကို ငါမကိုးကွယ်ဘူး။ သည်လို ခိုလှုံမှုရယူခြင်းက ဘယ်လိုမှ ကိုးကွယ်ခြင်းမမည်ပါဘူး"လို့ စောဒကတက်မယ် ဆိုရင်...

သူရဲ့ အဖြေကတော့

“အလ္လာဟ်တစ်ပါးတည်းကိုပဲ ကိုးကွယ်ရမယ်လို့ အသင့်ပေါ်မှာ အလ္လာဟ်က ဖရ်သ္ဖ် သတ်မှတ်ထားတာ လက်ခံလား”လို့ သူ့ကို မေးရမယ်။ အကယ်၍ သူက လက်ခံတယ်လို့ ဖြေရင် သူ့ကို အခုလိုဆက်ပြောပါ။ “အလ္လာဟ်တစ်ပါးတည်းကိုသာ ကိုးကွယ်ရမယ်လို့ အသင့်အပေါ်မှာ အလ္လာဟ်သတ်မှတ်ပြဋ္ဌာန်းထားတဲ့အလ္လာဟ်နဲ့ပတ်သက်တဲ့ဝတ္တရားကို အသင်ရှင်းပြစမ်းပါဦး။(ဘာတွေလဲ။) အကယ်၍ သူက အိဗာဒတ်–ကိုးကွယ်မှုရဲ့အမျိုးအစားတွေကို မသိဘူးဆိုရင် သူ့ကို သည်လို ရှင်းပြပါ။ “အလ္လာဟ်အရှင်မြတ်က မိန့်ထားတော်မူတယ်။

ٱدۡعُواْ رَبَّكُمۡ تَضَرُّعٗا وَخُفۡيَةً

“အသင်တို့သည် အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်ထံတော်တွင် ရိုကျိုးကျို့ငဲ့စွာ၊ တီးတိုးလျှို့ဝှက်စွာ ဆုတောင်းကြပါ။” (ကုရ်အာန်–၇း၅၅)

ပြီးတော့ ဆက်ပြောပါ။ “အလ္လာဟ့်ထံမှာ ဒုအာတောင်းခံနေတာက အလ္လာဟ်ကို ကိုးကွယ်နေတာပဲ မဟုတ်လား။” ဟုတ်တယ်လို့ သူဖြေရလိမ့်မယ်။ ဒုအာက ကိုးကွယ်မှုရဲ့ အနှစ်ပဲလေ။ ဒုအာလုပ်ခြင်းကို ကိုးကွယ်ခြင်းဆိုပြီး အသင်လက်ခံတယ်။ နေ့ည၊ ကြောက်ရွံ့ချိန်၊ မျှော်လင့်ချိန်တွေမှာ အလ္လာဟ့်ကို သတိရပြီး အဲဒီလိုအပ်ချက်တွေအတွက်ပဲ အသင်က နဗီတွေ၊ သူတော်စင်တွေကိုလည်း ဟစ်ခေါ်မယ်ဆိုရင် ဒါဟာ အလ္လာဟ်နဲ့ယှဉ်ပြီး သူတို့ကို ကိုးကွယ်ခြင်းပဲ မဟုတ်လား။ (ဒါကို) သူလက်ခံရလိမ့်မယ်။ ပြီးတော့ သူ့ကို ထက်ပြီးရှင်းပြပါ။ အလ္လာဟ် အရှင်မြတ်ရဲ့ စကားတော်ဖြစ်တဲ့

فَصَلِّ لِرَبِّكَ وَٱنۡحَرۡ ۝٢

## ~~အထင်အလွဲများကို ချေဖျက်ခြင်း~~

"သို့ဖြစ်ရာ အသင်သည် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အတွက် ရည်ရွယ်ပြီး စွလာသ်ဝတ်ပြုပါ။ ထို့ပြင် အသင်သည် (အရှင်မြတ်အား ရည်ရွယ်ပြီး သားကောင်ကို လှီးဖြတ်စွန့်လှူ)ကုရ်ဗာနီ ပြုပါ။" (ကုရ်အာန်–၁၀၈း၂) ဆိုတဲ့ အာယတ်တော်ကို အသင်ဖတ်ပြီး အဲဒီပေါ်မှာ အမလ်လုပ်တာဟာ အလ္လာ့ဟ်ကို ကိုးကွယ်တာပဲ မဟုတ်လား။ သူ့ကို ထပ်မေးပါ။ ဥပမာ– အသင်ဟာ အခြားအဖန်ဆင်းခံတစ်ခုခု၊ ဥပမာ– နဗီ(သို့မဟုတ်) ဂျင်န်အတွက် သားကောင်လှီးတယ်ပဲ ဆိုပါစို့။ အဲဒါဆို အသင်ဟာ အလ္လာဟ်နဲ့ယှဉ်ပြီး အခြားအရာကို ကိုးကွယ်တာပဲ မဟုတ်လား။

သူ့ကို မေးကြည့်။ ကုရ်အာန်ကျရောက်တဲ့အချိန်က မုရှ်ရိက် တွေဟာ ကောင်းကင်တမန်တွေနဲ့ လားသ်အစရှိတဲ့အရာတွေကို အလ္လာဟ် အရှင်မြတ်နဲ့ တုဖက်ယှဉ်ပြီး ကိုးကွယ်ခဲ့ကြတယ်မဟုတ်လား။ သူက ဟုတ်တယ်လို့ ဖြေရလိမ့်မယ်။ အသင်က ဆက်ပြောပါ။" သူတို့ကို ကိုးကွယ်ခဲ့ကြတယ်ဆိုတာ သူတို့ထံကနေ ဆုတောင်းခြင်း၊ သူတို့အတွက် သားကောင်းလှီးဖြတ်ပူဇော်ခြင်း၊ သူတို့ထံခိုလှုံခြင်း စသည်တို့ကို လုပ်ခဲ့ကြတာပဲ မဟုတ်လား။

ပြန်ကြည့်ကြမယ်ဆိုရင် သူတို့ဟာ အလ္လာဟ်အရှင်မြတ်သာ အရာရာလွှမ်းမိုးနိုင် နင်းတော်မူတဲ့ အရှင်ဖြစ်တယ်၊ မိမိတို့ဟာ ထိုအရှင် မြတ်ရဲ့ကျွန်တွေသာ ဖြစ်ကြတယ်လို့ လက်ခံထားသူတွေပါပဲ။ အဲဒါတင်မ ကပါဘူး။ အလ္လာဟ်သာလျှင် အရာရာကို စီမံဆောင်ရွက်ချယ်လှယ် နေတော်မူတဲ့ အရှင်ဖြစ်တယ်လို့လည်း အဲဒီမုရှ်ရိက်တွေကပြောကြ ပါတယ်။ သူတို့ဟာ နဗီတွေ၊ ဝလီတွေထံကနေ အသနားခံခြင်း၊ သူတို့ထံခိုလှုံခြင်းတွေကို ပြုကြတယ်။ ဒါလုံးဝရှင်းနေတာပဲ။

## ~~အထင်အလွဲများကို ချေဖျက်ခြင်း~~

အကယ်၍ သူကပြောမယ်။ အသင်တို့ဟာ တမန်တော်မြတ်ﷺရဲ့ အသနားခံပေးမှု ကိစ္စကို ငြင်းတာလား၊ မရှိဘူးလို့ ပြောနေတာလား။

အဲဒါဆိုရင် အဖြေကတော့ သည်လိုရှိပါတယ်။ ငါတို့ဟာ တမန်တော်မြတ်ﷺရဲ့ အသနားခံပေးမှုကို ငြင်းတာလည်း မဟုတ်ဘူး၊ မရှိဘူးလို့ ပြောနေတာလည်း မဟုတ်ဘူး။ တမန်တော်မြတ်ﷺက အသနားခံပေးမဲ့လူ၊ အသနားခံပေးမှုကို လက်ခံခြင်းခံရမဲ့လူဖြစ်တယ်လို့တောင် ကျွန်တော်တို့လက်ခံထားတယ်။ တမန်တော်မြတ်ﷺရဲ့ အသနားခံပေးမှုကိုလည်း ကျွန်တော်တို့ မျှော်လင့်တယ်။ ဒါပေမဲ့ ကျွန်တော်တို့ရဲ့ ယူဆချက်ကတော့ အသနားခံပေးမှုအားလုံးကို အလ္လာဟ်ပဲ ပိုင်တယ်။ အလ္လာဟ်ကိုယ်တိုင် မိန့်ထားတာပါ။

قُلْ لِّلّٰهِ الشَّفَاعَةُ جَمِيْعًا ؕ

"(အို- တမန်တော်)အသင်ပြောလိုက်ပါ- ကြားဝင်အသနားခံမှု အားလုံးသည် အရှင်မြတ်ပင် စိုးပိုင်တော်မူသည်။" (ကုရ်အာန်- ၃၉း၄၄)

အသနားခံပေးမှုကိုလည်း အလ္လာဟ်အရှင်မြတ်က ခွင့်ပြုတဲ့ အချိန်မှသာ ပြုနိုင်မယ်။ အလ္လာဟ်အရှင်မြတ်အမိန့်ရှိထားပါတယ်။

مَنْ ذَا الَّذِىْ يَشْفَعُ عِنْدَهٗۤ اِلَّا بِاِذْنِهٖ ؕ

"အရှင်မြတ်၏ ခွင့်ပြုချက်မရှိဘဲ အရှင်မြတ်ထံတွင် သူတစ်ပါး အတွက် ကြားဝင်အသနားခံ လိုက်ပြောပေးမည့်သူသည် မည်သူရှိသနည်း။" (ကုရ်အာန်- ၂း၂၅၅)

နောက်ပြီး တစ်ယောက်ယောက်ကို အသနားခံပေးခွင့်လည်း အလ္လာဟ်နှစ်သက်တဲ့သူ ဖြစ်မှရမယ်။ အလ္လာဟ်အရှင်မြတ်က မိန့်ထားပါတယ်။

## ~~အထင်အလွဲများကို ချေဖျက်ခြင်း~~

وَمَنْ يَّبْتَغِ غَيْرَ الْاِسْلَامِ دِيْنًا فَلَنْ يُّقْبَلَ مِنْهُ

"ထို့ပြင် မည်သူမဆို အစ္စလာမ်သာသနာမှလွဲ၍ အခြားသာသနာ တစ်ခုခုကို လိုလားရှာဖွေလျှင် ထိုသူ၏ထံမှ သဘောတူလက်ခံတော်မူခြင်း လုံးဝခံရမည်မဟုတ်ပေ။" (ကုရ်အာန် – ၃း၈၅)

နောက်ပြီး အလ္လာဟ်အရှင်မြတ်က တစ်ပါးတည်းသော အရှင်ကို လက်ခံသူရဲ့ အသနားခံခြင်းကိုသာ လက်ခံပေးမယ်။

အသနားခံခြင်းအလုံးစုံဟာ အလ္လာ့ဟ်လက်ဝယ်မှာပဲ ရှိတယ်။ အလ္လာဟ်ခွင့်မပြုဘဲ ဘယ်သူမှ အသနားမခံပေးနိုင်ဘူး။ နဗီကိုယ်တိုင် တောင် အလ္လာဟ်ခွင့်မပြုမချင်း ဘယ်သူ့အတွက်မှ အသနားခံပေးလို့ မရဘူး။ သောင်ဟီးဒ်ကို လက်ခံတဲ့သူတွေကိုပဲ အလ္လာဟ်က အသနား ခံပေးခွင့်ပြုမယ်။ ဒါကြောင့် ဘာသိရသလဲဆိုရင် ရှဖာအသ်လို့ ခေါ်တဲ့ အသနားခံခြင်း အလုံးစုံဟာ အလ္လာဟ့်လက်ဝယ်ထဲမှာပဲ ရှိတယ်ဆိုတာ ပါပဲ။ ဒါကြောင့် အလ္လာ့ဟ်ထံပါးကနေပဲ အဲဒီအသနားခံခြင်းကို တောင်းခံရ မယ်။ ရှဖာအသ်ရဖို့ အတွက်လည်း အလ္လာ့ဟ်ဆီကပဲ တောင်းရမယ် ဆိုတာပါပဲ။

"အို – အလ္လာဟ်၊ တမန်တော့်အသနားခံပေးမှုမှ ကျွန်တော်မျိုးကို လက်မဲ့မလုပ်ပါနဲ့လို့ တောင်းရမယ်။ ကျွန်တော်နဲ့ပတ်သက်ပြီး တမန်တော် ရဲ့ အသနားခံပေးမှုကို လက်ခံပေးတော်မူပါ" လို့ ဒုအာတောင်းရမယ်။

အကယ်၍ သူက ဒီလို စောဒကထပ်တက်မယ်။ "တမန်တော် မြတ် ﷺ က အစကတည်းက ရှဖာအသ်လုပ်ပေးခွင့် ရပြီးသားပဲ။ ဒါကြောင့် သူ့ကို ပေးထားတဲ့အရာကို တို့က သူ့ဆီကနေ တောင်းတာလေ။ အဲဒါ ဘာဖြစ်လဲ။"

~~အထင်အလွဲများကို ချေဖျက်ခြင်း~~

သူ့ရဲ့ အဖြေကတော့-

"ဟုတ်ပါတယ်။ တမန်တော့်ကို အလ္လာဟ်က ရှဖာအသ်ချီးမြင့်ထားပါတယ်။ ဒါပေမဲ့ တမန်တော့်ဆီက တောင်းခြင်းကိုလည်း တားထားပါတယ်။ ကြည့်ပါ။ အလ္လာဟ်မိန့်တာကို

فَلَا تَدْعُوْا مَعَ اللّٰهِ اَحَدًا ۝١٨

အသင်တို့သည် အလ္လာဟ်အရှင်မြတ်နှင့်အတူ မည်သူ့ကိုမျှ မကိုးကွယ် မဟာစ်ခေါ်ကြနှင့်။ (ကုရ်အာန်-၇၂း၁၈)

ဒါကြောင့် အသင့်အတွက် တမန်တော်ရဲ့ အသနားခံပေးမှုကို အလ္လာဟ်လက်ခံသဘော တူဖို့ အသင့်အနေနဲ့ လိုလားတယ်ဆိုရင်

فَلَا تَدْعُوْا مَعَ اللّٰهِ اَحَدًا ۝١٨

အသင်တို့သည် အလ္လာဟ်အရှင်မြတ်နှင့်အတူ မည်သူ့ကိုမျှ မကိုးကွယ်၊ မဟာစ်ခေါ်ကြနှင့်။ (ကုရ်အာန်၇၂း၁၈)ဆိုတဲ့ အာယတ်အပေါ်မှာ အမလ်လုပ်ဆောက်တည်ပါ။

တမန်တော်မြတ်ﷺအပြင် တခြားသူတော်ကောင်း မုအ်မင်န်တွေရဲ့ အသနားခံပေးခြင်းလည်း ရှိသေးတာပဲ။ မှန်ကန်သော ဟဒီးဆ်မှာ လာရှိထားတယ်။ နဗီတွေ၊ ကောင်းကင် တမန်တွေနဲ့ ကောင်းတဲ့ ကျေးကျွန်တွေကလည်း အသနားခံပေးကြမယ်တဲ့။

အကယ်၍ တမန်တော်မြတ်ﷺက ရှဖာအသ်ရထားလို့ တမန်တော့်ကို ဟာစ်ခေါ်တာသရကြေးဆိုရင် ရှဖာအသ်ရထားတဲ့ တခြားတခြားသော လူတွေကိုလည်း ဟာစ်ခေါ်တာသရတော့မှာပေါ့။ ဒါပေမဲ့ စဉ်းစားပါဦး။ အကယ်၍ အဲဒီလိုသာ တကယ်လုပ်မယ်ဆိုရင် အဲဒါဟာ အရင်ကုရ်အာန်အာယသ်တွေရဲ့ အထောက်အထားတွေအရ ရှိရ်က်ဖြစ်ကြောင်း ထောက်ပြခဲ့တဲ့၊ သူတော်စင်တွေကို ကိုးကွယ်ခြင်းဆိုတဲ့ အရာကြီး ဖြစ်သွားမှာပေါ့။ အကယ်၍ ဖော်ပြခဲ့တဲ့လူတွေဆီကနေ

ရှဖာအသ်တောင်းလို့ မရဘူးဆိုရင် ခင်ဗျားပြောနေတဲ့ တမန်တော့်ဆီက ရှဖာအသ်တောင်းတဲ့ ကိစ္စလည်း မရတော့ဘူး။ ဘာကြောင့်လဲဆိုတော့ ဖော်ပြပါ လူတချို့ကိုလည်း အလ္လာဟ်က ရှဖာအသ်လုပ်ခွင့် ပေးထားရင် ခင်ဗျားပြောသလိုဆိုသူတို့ဆီကနေလည်းရှဖာအသ်တောင်းပိုင်ခွင့်ရှိရမှာပေါ့။

အဲဒါကို တစ်ဦးတစ်ယောက်က ဒီလို စောဒကတက်မယ်။

"ငါတို့ လုံးဝ အလ္လာဟ်နဲ့ ရှိရ်က်မလုပ်ဘူး။ သူတော်ကောင်းတွေဆီကနေ အသနားခံခိုင်းတာ ဘယ်လိုရှိရ်က်ဖြစ်ရတာလဲ။"

အဖြေကတော့-

"အလ္လာဟ်အရှင်မြတ်က ရှိရ်က်လုပ်ခြင်းကို ဟရာမ်အဖြစ် သတ်မှတ်ခဲ့တာ အသင်တို့ကောင်းကောင်းသိပါတယ်။ အဲဒီရှိရ်က်က ဇိနာထက်တောင် ပိုဆိုးသေးတယ်လို့လည်း မိန့်ထားတယ်။ အဲဒါနဲ့ပတ်သက်ပြီး ဘယ်လောက်တောင် မိန့်ထားသလဲဆိုရင် အလ္လာဟ်ဟာ ရှိရ်က်ကလွဲပြီး ကျန်တဲ့ အပြစ်တွေကိုဆို ခွင့်လွှတ်ကောင်းခွင့်လွှတ်လိမ့်မယ်။ ဒါပေမဲ့ ရှိရ်က်ကို တော့ ဘယ်တော့မှ ခွင့်မလွှတ်ဘူးတဲ့။ အဲဒီအပြစ်ကို ကျူးလွန်သူက ဘယ်တော့မှ ခွင့်လွှတ်မှုမရနိုင်တော့ဘူးလို့ ဆိုထားရအောင် ဒီရှိရ်က်က ဘာကြောင့် သည်လောက် ကြီးလေးတဲ့ အပြစ်ဖြစ်ရတာလဲ။ "

ဒီမေးခွန်းကို သူဖြေနိုင်မှာ မဟုတ်ဘူး။ အဲဒီအခါကျရင် အသင်က ဆက်ပြောပါ။ အသင်ဟာ ရှိရ်က်ကိုတောင် မသိဘဲနဲ့ ဘယ်လိုလုပ်ပြီး အဲဒီရှိရ်က်ကနေ ရှောင်နိုင်မှာလဲ။ ကျူးလွန်ရင် ဘယ်တော့မှ ခွင့်လွှတ်မှု မရနိုင်တဲ့ အပြစ်ဖြစ်တယ်။ အဲဒါကို အလ္လာဟ်က ဘာကြောင့် ဟရာမ်အဖြစ် သတ်မှတ်သလဲဆိုတာတောင် အသင်မသိဘူး။ ဒီလောက်အရေးကြီးတဲ့ ကိစ္စမှာ အသင်ဟာ ဒီလောက်ပေါ့ဆတယ်။ ကိုယ်တိုင်လည်း မသိဘူး။

သိတဲ့လူကိုလည်း မမေးဘူး။ ဘာလဲ၊ အလ္လာဟ်က ဟရာမ်ပဲ သတ်မှတ်လိုက်ပြီး အဲဒီဟရာမ်ကို မရှင်းပြထားဘူး ထင်နေပါသလား။

အကယ်၍ သူက အခုလို ထက်ပြောမယ်။ "ရှိရ်က်ဆိုတာ ရုပ်တုတွေကို ကိုးကွယ်ခြင်းကို ခေါ်တယ်။ ငါတို့က ရုပ်တုတွေကို မကိုးကွယ်ဘူး။"

အဖြေအနေနဲ့ အသင်ပြောရမှာက–

"ကိုးကွယ်တယ်ဆိုတာ ဘာကိုခေါ်တာလဲ။ ဘာလဲ–ကိုးကွယ်တယ်ဆိုတာ အဲဒီကျောက်တုံးကျောက်ခဲတွေက အရာရာကို တတ်စွမ်းနိုင်တယ်၊ ကျွေးနေတယ်၊ မွေးနေတယ်၊ အားလုံးကို စီမံဆောင်ရွက်နေတယ်လို့ ယုံကြည်ခြင်းကို ဆိုလိုတာလား။ မဟုတ်ပါဘူး။ အဲဒါကို ဆိုလိုတာမဟုတ်ကြောင်း ကုရ်အာန်က အတိအလင်း ပြောထားတယ်။

قُلْ مَنْ يَّرْزُقُكُمْ مِّنَ السَّمَآءِ وَالْاَرْضِ...

"(အို–တမန်တော်)အသင်ပြောလိုက်ပါ– "အသင်တို့ကို မိုးကောင်းကင်နှင့် မြေပထဝီမှ စားနပ်ရိက္ခာကို မည်သူထောက်ပံ့သနည်း...။" (ကုရ်အာန်–၁၀း၃၁)(ဒီအာယတ်တွေကို ဖော်ပြခဲ့ပြီးပါပြီ)

အကယ်၍ သူကပြောမယ်။

"သစ်ပင်၊ ကျောက်တုံး၊ သင်္ချိုင်းတို့ပေါ်က အဆောက်အအုံစသည်တို့ထံကို ဦးတည်ဆည်းကပ်ပြီး သူတို့ထံမှ ဆုတောင်းခြင်း၊ သူတို့တွက် သားကောင်လှီးဖြတ် ပူဇော်ခြင်းတို့ကို လုပ်ကာ သူတို့သည် မိမိတို့ကို အလ္လာဟ်နဲ့နီးစပ်စေမယ်၊ သူတို့အကြောင်းခံနဲ့ အလ္လာဟ်က မိမိတို့ဒုက္ခတွေကို ဖယ်ရှားပေးမယ်ဟု ပြောဆိုလုပ်ကိုင်ကြသူများသာ ရှိရ်က် ကျူးလွန်ကြတယ်" ဒီအတိုင်း သူပြောလာလျှင်...

အသင်သူ့ကို ပြောလိုက်ပါ။

"မှန်ပါတယ်။ ကျောက်တုံးတွေ၊ သချိုင်းတွေပေါ်မှာ ရှိတဲ့ဒရ်ဂါတွေမှာ အသင်တို့ ဒါပဲလုပ်နေကြတာပဲလေ"

အခုသူတို့ လုပ်ရပ်ဟာ ရုပ်တုကိုးကွယ်ခြင်းဝါဒဖြစ်တယ်ဆိုတာကို သူလက်ခံသွားပြီဆိုရင်တော့ ကျွန်ုပ်တို့ ရည်ရွယ်ချက်ပြည့်ပါပြီ။

ပြီးတဲ့နောက် သူ့ကို ဒီလိုလေး ထပ်ပြောရဦးမယ်။

"ရုပ်တုတွေကို ကိုးကွယ်ခြင်း တစ်ခုတည်းပဲ ရှိရ်က်ဖြစ်တာလား။ သူတော်ကောင်းတွေကို အမှီပြုခြင်း၊ သူတို့ဆီကနေ ဒုအာတောင်းခြင်းက ရှိရ်က်ထဲမှာ မပါဘူးလား။ အသင်တို့ ဆိုလိုတာ ဒါပဲဆိုရင် ကုရ်အာန်က ရှိရ်က်ဆိုတာ အဲဒီလောက်ပဲ မဟုတ်ကြောင်း ထောက်ပြထားတယ်။ ဘာဖြစ်လို့လဲဆိုရင် ကုရ်အာန်က ကောင်းကင်တမန်တွေ၊ အီစာခရစ်တော်နဲ့ တခြားသူတော်ကောင်းတွေကို မှီခိုတွယ်ကပ်ပြီး ကြားခံအဖြစ် သတ်မှတ်တဲ့လူတွေကို ကာဖိရ်လို့ ဆိုထားပါတယ်။ အလ္လာဟ်ကိုပဲ ကိုးကွယ်ထိုက်တဲ့ကိစ္စမှာ တစ်ခြားအရာကိုပါ ထည့်မယ်ဆိုရင် သူဟာ ရှိရ်က်ကျူးလွန်တာပဲ။ ဒါ ကုရ်အာန်က ပြောတဲ့စကားပါ။" အကယ်၍ ခင်ဗျားရဲ့စကားကို သူလက်ခံသွားပြီဆိုရင် ခင်ဗျားရဲ့ ရည်ရွယ်ချက်ပြည့်ပါပြီ။

ဒီပြဿနာရဲ့အဓိက ဖြေရှင်းနည်းကတော့ ဒီလိုပါ။ အကယ်၍ သူက "ငါဟာ အလ္လာဟ်အရှင်မြတ်နဲ့ ရှိရ်က်မလုပ်ဘူး။" လို့ ပြောမယ်ဆိုရင် သူ့ကို သည်လိုမေးပါ။

"အလ္လာဟ်နဲ့ရှိရ်က် လုပ်တယ်ဆိုတာ ဘာလဲ။ ကျွန်တော့်ကို ရှင်းပြစမ်းပါဦး"

"ရှိရ်က်ဆိုတာ ရုပ်တုများကို ကိုးကွယ်ခြင်း" လို့ သူကဖြေရင် သူ့ကို ဆက်မေးပါ။ ရုပ်တုကိုးကွယ်တယ်ဆိုတာ ဘာလဲ၊ ကျွန်တော့်ကို ရှင်းပြစမ်းပါဦး။

သူက "ကျွန်တော်တို့ဟာ အလ္လာဟ်တစ်ပါး တည်းကိုပဲ ကိုးကွယ်ကြတယ်" လို့ ပြောမယ်ဆိုရင် သူ့ကို ဒီလိုမေးပါ။ "အလ္လာဟ်ကို ကိုးကွယ်တယ်ဆိုတာ ဘာလဲ၊ ကျွန်တော့်ကို ရှင်းပြစမ်းပါဦး။ "

အကယ်၍ အလ္လာဟ်တစ်ပါးတည်းကို ကိုးကွယ်ခြင်းဆိုတာကို သူက ကုရ်အာန်ထဲမှာ ပါတဲ့အတိုင်း ဖြေတယ်ဆိုရင် အဲဒါ ခင်ဗျားလိုချင်တဲ့ အချက်ပဲ။

အကယ်၍ သူက "မသိဘူး"လို့ပဲ ဖြေတယ် ဆိုရင် သူ့ကိုပြောပါ။ "အသင်ဟာ ကိုယ်မသိတဲ့ဟာကို ဘာကြောင့် ကြွေးကြော်တာလဲ။" အကယ်၍ သူဟာ ကုရ်အာန်ကပြောထားတဲ့အတိုင်း မပြောဘဲ တခြားဟာတွေ ပြောရင် အသင်က ကုရ်အာန်ရဲ့ရှင်းလင်းတဲ့ အာယသ်တွေကို အခြေခံပြီး၊ အလ္လာဟ်နဲ့ရှိရိက်လုပ်ခြင်း ရုပ်တုကိုးကွယ်ခြင်း ဆိုတဲ့အရာတွေရဲ့အနက်သဘောကို ရှင်းပြလိုက်ပါ။ ပြီတော့ အခုသူတို့လုပ်နေတာကလည်း အထက်က ဖော်ပြခဲ့တဲ့ ရှိရိက်နဲ့တစ်ထပ်တည်းပဲလို့ ရှင်းပြလိုက်ပါ။ အလ္လာဟ်တစ်ပါးတည်းကို ကိုးကွယ်ခြင်းနဲ့ ပတ်သက်ပြီး ငြင်းဆန်ရင်း သူတို့ရဲ့ ဘိုးစဉ်ဘောင်ဆက်က ပြောခဲ့သလိုပဲ၊ သူတို့လည်း ပြောကြတာပဲ။

أَجَعَلَ الْآلِهَةَ إِلَٰهًا وَاحِدًا ۖ إِنَّ هَٰذَا لَشَيْءٌ عُجَابٌ ۝٥

ငင်းသည် ကိုးကွယ်ရာအမြောက်အမြားကို ကိုးကွယ်ရာတစ်ပါးတည်း ပြုလုပ်လိုက်သလော။ အမှန်စင်စစ် ဤသည် အလွန်အံ့သြဖွယ်ရာ တစ်ခုဖြစ်သည်။" (ကုရ်အာန် – ၃၈း၅)

အခုခေတ်မှာ ရှိတဲ့လူတွေက ယုံကြည်ချက်ကြီးလို့ ခေါ်နေတဲ့ အရာကိုပဲ ချေဖြတ်တိုက်ခိုက်ဖို့ ကုရ်အာန်ကျလာတာ၊ တမန်တော်မြတ် ﷺ ကလည်း အဲဒီအတွက်ပဲ ဂျိဟာဒ်လုပ်ခဲ့တာကို အခုခင်ဗျားသိပြီဆိုတော့

နောက်ထက် တစ်ခု မှတ်ထားပါ။ အရင်ကရှိခဲ့တဲ့ မုရှ်ရိက်တွေရဲ့ ရှိရ်က်က အခုရှိနေတဲ့ မုရှ်ရိက်တွေရဲ့ ရှိရ်က်ထက် အချက်နှစ်ချက်ကြောင့် နည်းနည်းလေးပိုပေါ့ပါတယ်။

ပထမအချက်ကတော့ အရင်ခေတ်က မုရှ်ရိက်တွေဟာ ချောင်လည်တဲ့အချိန်မှာပဲ ရှိရ်က်လုပ်ကြတယ်။ ပြီးတော့ ဝလီတွေ၊ ကောင်းကင်တမန်တွေ၊ ရုပ်တုတွေကို ဟစ်ခေါ်တသကြတယ်။ ဒါပေမဲ့ တကယ်ဒုက္ခရောက်လာရင်တော့ သူတို့ဟာ အလ္လာဟ်အရှင်မြတ်တစ်ပါးတည်းကိုပဲ ဟစ်ခေါ်တသကြတယ်။

وَإِذَا مَسَّكُمُ الضُّرُّ فِي الْبَحْرِ ضَلَّ مَنْ تَدْعُونَ إِلَّا إِيَّاهُ ۖ فَلَمَّا نَجَّاكُمْ إِلَى الْبَرِّ أَعْرَضْتُمْ ۚ وَكَانَ الْإِنْسَانُ كَفُورًا ﴿٦٧﴾

"ထို့ပြင် အသင်တို့သည် ပင်လယ်ထဲ၌ ဒုက္ခရောက်ခဲ့သောအခါ အရှင်မြတ်မှလွဲ၍ အသင်တို့ ဟစ်ခေါ်နေကြသောအရာများသည် ပျောက်ကွယ်သွားကြသည်။ ထို့နောက် အရှင်မြတ်သည် အသင်တို့အား ကုန်းပေါ်သို့လွတ်မြောက်စေတော်မူခဲ့သောအခါ အသင်တို့သည် မျက်နှာလွှဲသွားခဲ့ကြပြန်သည်။ ထို့ပြင် လူသားသည် အလွန်ကျေးဇူးကန်းသူပင်ဖြစ်သည်။"

(ကုရ်အာန် - ၁၇း၆၇)

قُلْ أَرَأَيْتَكُمْ إِنْ أَتَاكُمْ عَذَابُ اللَّهِ أَوْ أَتَتْكُمُ السَّاعَةُ أَغَيْرَ اللَّهِ تَدْعُونَ إِنْ كُنْتُمْ صَادِقِينَ ﴿٤٠﴾ بَلْ إِيَّاهُ تَدْعُونَ فَيَكْشِفُ مَا تَدْعُونَ إِلَيْهِ إِنْ شَاءَ وَتَنْسَوْنَ مَا تُشْرِكُونَ ﴿٤١﴾

"(အို - တမန်တော်)အသင် ပြောလိုက်ပါ- အကယ်၍ အလ္လာဟ်အရှင်မြတ်၏ အပြစ်ဒဏ်သည် အသင်တို့အပေါ်၌ ကျရောက်လာခဲ့လျှင်၊ သို့မဟုတ် ကိယာမသ် ရှင်ပြန်ထမည့်နေ့သည် အသင်တို့ထံသို့ ရောက်လာခဲ့လျှင် အသင်တို့သည် အလ္လာဟ်အရှင်မြတ်မှလွဲ၍ (အခြားအရာများ

ကို) ဟစ်ခေါ်ကြဦးမည်လော၊ အကယ်၍ အသင်တို့သည် မှန်ကန်သူများ ဖြစ်ခဲ့ကြလျှင် အသင်တို့သည်(ငါ့အား)ပြောပြကြပါ။ ထိုသို့မဟုတ်၊ အမှန်မှာ အသင်တို့သည် (ထိုကဲ့သို့အချိန် ရောက်လာလျှင်) အရှင်မြတ် တစ်ပါးတည်းကိုပင် ဟစ်ခေါ်ကြလိမ့်မည်။ ထို့နောက် အရှင်မြတ်သည် အရှင်မြတ်အလိုရှိတော်မူခဲ့လျှင် အသင်တို့(ဖယ်ရှားရန်)ဟစ်ခေါ်နေသော အရာမှ ဖယ်ရှားပေးတော်မူမည်။ ၎င်းပြင် အသင်တို့သည်လည်း အသင်တို့ တွဲဖက်ကိုးကွယ်ကြသော အရာများကို မေ့ပျောက်သွားကြလိမ့်မည်။”

(ကုရ်အာန် – ၆း၄၀၊၄၁)

وَاِذَا مَسَّ الْاِنْسَانَ ضُرٌّ دَعَا رَبَّهٗ مُنِيْبًا اِلَيْهِ ثُمَّ اِذَا خَوَّلَهٗ نِعْمَةً مِّنْهُ نَسِيَ مَا كَانَ يَدْعُوْٓا اِلَيْهِ مِنْ قَبْلُ وَ جَعَلَ لِلّٰهِ اَنْدَادًا لِّيُضِلَّ عَنْ سَبِيْلِهٖ ؕ قُلْ تَمَتَّعْ بِكُفْرِكَ قَلِيْلًا ۖۗ اِنَّكَ مِنْ اَصْحٰبِ النَّارِ ۝٨

“ထို့ပြင် လူသားတွင် ဘေးဒုက္ခတစ်စုံတစ်ခု ကျရောက်သည့်အခါ သူသည် သူ့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်ဘက်သို့ တစ်စိတ်တစ်လက်တည်းလှည့်ပြီး အရှင်မြတ်အား ဟစ်ခေါ်သည်။ ထို့နောက် သူ့ကို အရှင်မြတ်ထံတော်မှ ကျေးဇူးတော်တစ်စုံတစ်ခုကို အရှင်မြတ်ကပေးသနားတော်မူသည့်အခါ သူသည် သူ့အနေနှင့် အရှင်မြတ်အား ယခင်က သူဟစ်ခေါ်နေခဲ့သည်ကို မေ့သွားတော့သည်။ ထို့ပြင် သူသည် (သူတစ်ပါးအား)အရှင်မြတ်၏ လမ်းမှ လွဲသွားစေရန် အတွက် အရှင်မြတ်တွင် ဂုဏ်ရည်တူများ ကို ပြုလုပ်သတ်မှတ်ခဲ့သည်။ (အို–တမန်တော်)အသင်ပြောလိုက်ပါ– အသင်သည် အသင်၏ ကျေးဇူးကန်းမှုနှင့် (အချိန်)အနည်းငယ်အကျိုးကျေးဇူး ခံစားလိုက်ပါ၊ အမှန်စင်စစ် အသင်သည် ငရဲသားများထဲမှပင် ဖြစ်သည်။”

(ကုရ်အာန် – ၃၉း၈)

## ~~အထင်အလွဲများကို ချေဖျက်ခြင်း~~

وَإِذَا غَشِيَهُم مَّوْجٌ كَالظُّلَلِ دَعَوُا اللَّهَ مُخْلِصِينَ لَهُ الدِّينَ

"ထို့ပြင် သူတို့အား လှိုင်းများသည် အရိပ်များ(အမိုးများ)ကဲ့သို့ လွှမ်းမိုးသည့်အခါ သူတို့သည် ယုံကြည်ချက်ကို အရှင်မြတ်တစ်ပါးတည်း အတွက်သာသီးသန့်ပြုလုပ်ကြသည့်သူများအဖြစ်နှင့် အလ္လာဟ်အရှင်မြတ် အား ဟစ်ခေါ်တသကြသည်။" (ကုရ်အာန်–၃၁း၃၂)

အထက်ပါ အာယသ်တော်တွေကို နားလည်ခြင်းဖြင့် ဘာသိရ သလဲဆိုတော့ တမန်တော်မြတ်ﷺ စစ်တိုက်ခဲ့တဲ့ မုရှ်ရိက်တွေရဲ့ အပြစ် ဟာ ခက်ခဲဒုက္ခရောက်ချိန်မှာ အလ္လာဟ်ကလွဲပြီး ကျန်တာအားလုံးကို စွန့်လွှတ်လိုက်ပြီး အလ္လာဟ်တစ်ပါးတည်းကိုပဲ ကိုးကွယ်တသသလိုမျိုး ချောင်လည်တဲ့အခါမျိုးမှာ၊ ပုံမှန်အခါမျိုးမှာတော့ အလ္လာဟ်အရှင်မြတ် တစ်ပါးတည်းကို ကိုးကွယ်တသခြင်း မလုပ်ကြတာပဲ ဖြစ်တယ်။

ဒါကြောင့် အရင်ခေတ်က မုရှ်ရိက်တွေနဲ့ အခုခေတ်က မုရှ်ရိက် တွေဟာ ကွဲပြားသွားပါပြီ။ ဒါပေမဲ့ ဒါကို သတိထားမိသူ ဘယ်သူရှိလဲ။

ဒုတိယအချက်ကတော့ အရင်ခေတ်က မုရှ်ရိက်တွေ အလ္လာဟ်နဲ့ တွဲဖက်ကိုးကွယ်တဲ့ အရာတွေဟာ အလ္လာဟ်နဲ့နီးစပ်တဲ့ပုဂ္ဂိုလ်တွေ သို့မ ဟုတ် အလ္လာ့ဟ်အမိန့်မဖီဆန်တဲ့၊ အလ္လာ့ဟ် အမိန့်နာခံတဲ့ သက်မဲ့အရာ တွေဖြစ်ကြတယ်။ ဥပမာ–နဗီတွေ၊ ကောင်းကင်တမန်တွေ၊ ကျောက်တုံး ကျောက်ခဲတွေ၊ သစ်ပင်တွေ။

ဒါပေမဲ့ ကျွန်ုပ်တို့ခေတ်က မုရှ်ရိက်တွေ အလ္လာဟ်အရှင်မြတ်နဲ့ တွဲဖက်ကိုးကွယ်တဲ့အရာတွေဟာ ပေါ်ပေါ်လွင်လွင် အကုသိုလ်ကျူးလွန် သူတွေ၊ ဒုစရိုက်ထဲ နစ်မွန်းနေသူတွေဖြစ်ကြတယ်။ ဥပမာ– ဇိနာ၊ ခိုးခြင်း၊ စွလာသ်စွန့်လွှတ်ခြင်းတို့ကို ကျူးလွန်သူ။ အဲဒီတော့ ရှင်းပါတယ်။ သူတော်ကောင်းတွေ၊ အလ္လာ့ဟ်အမိန့်မဖီဆန်တဲ့ အရာတွေကို

## ~~အထင်အလွဲများကို ချေဖျက်ခြင်း~~

ဟစ်ခေါ်တသကိုးကွယ်သူတွေရဲ့ အပြစ်ဟာ လူဆိုး၊ သူခိုးကြမ်းပိုးတွေ ကို ကိုးကွယ်တသသူတွေရဲ့ အပြစ်ထက် အများကြီး ပိုလျော့ပါလိမ့်မယ်။

တမန်တော်စစ်တိုက်ခဲ့တဲ့သူတွေဟာ ဒီခေတ်ရှိမုရှ်ရိက်တွေထက် ပိုဦးနှောက်ရှိတဲ့သူတွေ၊ နောက်ပြီး သူတို့ရဲ့ ရှိရ်က်က ဒီခေတ်ရှိ မုရှ်ရိက်တွေရဲ့ ရှိရ်က်ထက် ပိုလျော့တယ်ဆိုတာကို အသင်ကောင်းစွာ သိနားလည်ပြီဆိုရင် ကျွန်တော်တို့ရဲ့အဖြေနဲ့ ဆန့်ကျင်ပြီး သူတို့ တက်နေတဲ့ အကြီးမားဆုံးစောဒကကို အသင်နားထောင်ဖို့ အသင့်ပြင်ထားလိုက်ပါ။

သူတို့ရဲ့ မေးခွန်းကတော့...

"ကုရ်အာန်ကျမ်းကျရောက်တဲ့ခေတ်ရှိ မုရှ်ရိက်တွေရဲ့ အပြစ်က ဒီလိုပါ။ သူတို့ဟာ لَا إِلٰهَ إِلَّا اللّٰهُကိုလည်းမဝန်ခံကြဘူး။ တမန်တော်မြတ် ﷺကို လက်မခံကြဘူး။ သေပြီးပြန်ရှင်ရမှာကိုလည်း ငြင်းဆန်ကြတယ်။ ကုရ်အာန်ကိုလည်း ပယ်ချကြတယ်။ အဲဒီကုရ်အာန်က မှော်ဥလက်လို့လည်း သူတို့ ပြောဆိုစွပ်စွဲကြတယ်။ ကျွန်တော်တို့က သူတို့နဲ့မတူဘူး၊ ကွဲပြားတယ်။ ကျွန်တော်တို့က لا إله إلا اللهကိုလည်းဝန်ခံတယ်။ တမန်တော်မြတ်မုဟမ္မဒ် ﷺကိုလည်း ထောက်ခံတယ်။ သေပြီး ပြန်ရှင်ရမှာကိုလည်း ယုံကြည်တယ်။ စွလာသ်လည်း ဝတ်ပြုတယ်။ ဥပုသ်သီလလည်း ဆောက်တည်တယ်။ အဲဒါတောင်မှ ခင်ဗျားတို့ဟာ ကျွန်တော်တို့ကို ရုပ်တုကိုးကွယ်တဲ့ ကာဖိရ်တွေနဲ့ ဘာလို့ နှိုင်းယှဉ်ရတာလဲ။" တဲ့

အဲဒါရဲ့အဖြေကတော့ ဒီလိုရှိတယ်။

"လူတစ်ယောက်ဟာ အမိန့်တစ်ခုမှာ တမန်တော့် စကားကို လက်ခံပြီး တစ်ခြားတစ်ခုမှာတော့ လက်မခံဘူးဆိုရင် ပညာရှင်အားလုံးရဲ့ တညီတညွတ်တည်း အဆိုအရ အဲဒီလူဟာ ကာဖိရ်ဖြစ်တယ်။ ဒီဥပမာနဲ့

## ~~အထင်အလွဲများကို ချေဖျက်ခြင်း~~

အလားတူပဲ အကြင်သူဟာ ကုရ်အာန်ရဲ့ အစိတ်အပိုင်းတချို့ကို လက်ခံပြီး တချို့ကို လက်မခံငြင်းဆန်ရင် သူလည်း ကာဖိရ်ဖြစ်တယ်။ သူနဲ့ ပမာတူ နောက်တစ်ခုက သောင်ဟီးဒ်ကိုတော့ လက်ခံတယ်။ ဒါပေမဲ့ ဇကားသ် ကိုငြင်းဆန်တယ်။ သို့မဟုတ် စွလာသ်၊ သောင်ဟီးဒ်၊ ဇကားသ်တို့ကို လက်ခံတယ်။ ဒါပေမဲ့ ရိုဇဟ်ဥပုသ်ကို ငြင်းဆန်တယ်။ သို့မဟုတ် အထက်က အရာအားလုံးကို လက်ခံတယ်။ ဒါပေမဲ့ ဟဂ်ျကို ငြင်းဆန်တယ်။ ဒီလိုလူဟာ ပညာရှင်အားလုံးရဲ့တညီတညွတ်တည်း အဆိုအရ ကာဖိရ် ဖြစ်ပါတယ်။ လူတစ်ယောက်က ဖရ်သွ်တွေအားလုံးကိုတော့ သက်ဝင် ယုံကြည်ပြီး သေပြီးပြန်ထရမယ်ဆိုတဲ့အချက်ကိုပဲ မယုံဘူးဆိုရင်လည်း ပညာရှင်အားလုံးရဲ့ တညီတညွတ်တည်း အဆိုအရ သူလည်းကာဖိရ် ဖြစ်တယ်။ သူရဲ့ အသက်နဲ့ ပစ္စည်းဥစ္စာတွေဟာ ဟလားလ်ဖြစ်သွားပြီ။ (သူနဲ့ပတ်သက်တဲ့ အမိန့်က ကာဖိရ်၊ မုရ်ှရိက်တို့နဲ့ ပတ်သက်တဲ့ အမိန့်အတိုင်း ဖြစ်သွားပြီ။) အလ္လာဟ်အရှင်မြတ်မိန့်တော်မူပါတယ်။

إِنَّ الَّذِيْنَ يَكْفُرُوْنَ بِاللّٰهِ وَ رُسُلِهٖ وَ يُرِيْدُوْنَ اَنْ يُّفَرِّقُوْا بَيْنَ اللّٰهِ وَ رُسُلِهٖ وَ يَقُوْلُوْنَ
نُؤْمِنُ بِبَعْضٍ وَّ نَكْفُرُ بِبَعْضٍ ۙ وَّ يُرِيْدُوْنَ اَنْ يَّتَّخِذُوْا بَيْنَ ذٰلِكَ سَبِيْلًا ﴿١٥٠﴾ اُولٰٓئِكَ
هُمُ الْكٰفِرُوْنَ حَقًّا ۚ وَ اَعْتَدْنَا لِلْكٰفِرِيْنَ عَذَابًا مُّهِيْنًا ﴿١٥١﴾

"အမှန်စင်စစ် အကြင်သူများသည် အလ္လာဟ်အရှင်မြတ်နှင့် အရှင်မြတ်၏ ရစူလ်တမန်တော်များကို ငြင်းပယ်ကြသည်။ ၎င်းပြင် သူတို့သည် အလ္လာဟ်အရှင်မြတ်နှင့် အရှင်မြတ်၏ တမန်တော်များ၏ ကြား၌ ခွဲခြား(ယုံကြည်)လိုကြသည်။ ထို့ပြင် သူတို့က ငါတို့သည် အချို့ (တမန်တော်များ)ကို ယုံကြည်ကြပြီး အချို့ (တမန်တော်များ)ကို ငြင်းပယ် ကြသည်ဟု ပြောဆိုကြသည်။ ၎င်းပြင် သူတို့သည် ထို(ယုံကြည်မှုနှင့်

ငြင်းပယ်မှု)၏ကြား၌ နည်းလမ်းတစ်ခုကို ပြုလုပ်လိုကြသည်။ ထိုသူများ ပင် အမှန်စင်စစ်ငြင်းပယ်ကြသူများဖြစ်ကြသည်။ ၎င်းပြင် ငါ အရှင်မြတ်သည် ငြင်းပယ်သူများအတွက် သေးသိမ်စေသောအပြစ်ဒဏ်ကို အဆင်သင့်ပြင်ဆင်ထားတော်မူသည်။” (ကုရ်အာန် - ၄း၁၅၀၊၁၅၁)

ကုရ်အာန်ကျမ်းတချို့ အစိတ်အပိုင်းကို ယုံကြည်ပြီး တချို့အစိတ်အပိုင်းကို မယုံသူဟာ ကာဖိရ်ဖြစ်ကြောင်း အလ္လာဟ်ကိုယ်တော်တိုင် မိန့်ထားပြီးပြီဆိုတော့ ကျွန်တော်တို့ကို တက်ထားတဲ့ ခင်ဗျားရဲ့စောဒကဟာ အလိုလို ဖျက်သိမ်းပြီးသားဖြစ်သွားပြီ။ အခုတင်ပြခဲ့တဲ့ စောဒကဟာ တကယ်တော့ အဟ်ဆာက လူတွေ ကျွန်ုပ်ထံ စာရေးပြီး မေးထားတဲ့ စောဒကပါပဲ။

ပြီးတော့ အဲဒီလိုစောဒကတက်တဲ့လူကို ဒီလိုလည်း မေးလို့ရတယ်။

“သာသနာရဲ့ အရေးကြီးတဲ့ အစိတ်အပိုင်းတွေထဲက တစ်ခုကိုပဲ ငြင်းဆန်မယ်။ ကျန်တာအားလုံးကို သက်ဝင်ယုံကြည်မယ်ဆိုရင်လည်း အဲဒီလူဟာ ကာဖိရ်ဖြစ်ကြောင်း ခင်ဗျားလက်ခံသဘောတူပြီဆိုရင် (ရှေ့ဆက် နည်းနည်းလေး ထပ်စဉ်းစားကြည့်ပါဦး) တမန်တော် ဒီလောကကို ယူဆောင်လာခဲ့တဲ့ အကြီးမားဆုံး ဖရ်သွ်တာဝန်ဟာသောင်ဟီးဒ်ရဲ့ဖရ်သွ်တာဝန်ဖြစ်တယ်။

ဒီသောင်ဟီးဒ်ရဲ့ ဖရ်သွ်တာဝန်ဟာ စွလာသ်၊ စွောင်မ်ဉပုသ်၊ ဟဂ်ျနဲ့ ဇကားသ်အပါအဝင် စတဲ့ဖရသွ်တာဝန် တွေ အားလုံးထက်ပိုအရေးကြီးပါတယ်။ အဲဒီတော့ ဒီအရာတွေ အားလုံးကို ယုံကြည်လက်ခံပြီး အဲဒီအရာတွေထဲက တစ်ခုကိုပဲ ငြင်းတဲ့ လူတောင် ကာဖိရ်ဖြစ်တယ်ဆိုရင် သာသနာရဲ့အုတ်မြစ်ဖြစ်တဲ့ သောင် ဟီးဒ်ခေါ် တစ်ပါးတည်းသောအရှင်ကို

ကိုးကွယ်ရမယ်ဆိုတဲ့ တာဝန်ကို ငြင်းဆန်တဲ့သူက ကာဖိရ်မဖြစ်ဘူးလား။ အံ့ဩဖွယ်ကောင်းလောက်အောင် ဉာဏ်တုံးတာပါပဲ။”

အဲဒါကို နောက်တစ်မျိုးနဲ့ ဖြေလို့ရသေးတယ်။ အဲဒါကတော့…

“တမန်တော့်သာဝကတွေ ဟာ ဇနူဟနီဖာနဲ့ စစ်ထိုးခဲ့တယ်။ တကယ်ဆိုရင် ဇနူဟနီဖာဟာ မွတ်စ်လင်မ်ဖြစ်တယ်။ သောင်ဟီးဒ်ကို လက်ခံတယ်။ အဇာန်လည်းပေးကြတယ်။ စွလာသ်လည်း ဆောက်တည်ကြတယ်။”

ဒီလိုပြောလို့ တစ်ဦးတစ်ယောက်က “သူတို့ဟာ မုစိုင်လမဟ်ကို နဗီအဖြစ်လည်း လက်ခံလိုက်ကြတယ်လေ” လို့ စောဒကတက်မယ် ဆိုရင် ကျွန်တော်တို့ရဲ့ အဖြေက ဒီလိုဖြစ်ပါတယ်။

“အသင်တို့လည်း ကျွန်ုပ်တို့နဲ့ စကားတူသွားပြီ။ ဘာကြောင့်လဲ ဆိုရင် တစ်ဦးတစ်ယောက်က သာမန် လူတစ်ယောက်ကို နဗီရဲ့အဆင့်ထိ ပို့လိုက်ရင် သူ့ရဲ့အပြစ်က ဘယ်လောက်ကြီးသွားသလဲဆိုရင် သူဟာ ကာဖိရ်အဖြစ် သတ်မှတ်ခံလိုက်ရတဲ့ အပြင် သူ့ရဲ့အသက်နဲ့ဥစ္စာဟာလည်း (မလုံခြုံတော့ဘူး။) ဟလားလ်ဖြစ်သွားတယ်။ (သူနဲ့ကာဖိရ်နဲ့ ဘာမှမကွာ တော့ဘူး။) ကလိမဟ်ရှဟာဒသ်နဲ့ စွလာသ်တို့ကလည်း သူ့ကို အကျိုး မပြုနိုင်တော့ဘူး။

(ရိုးရိုးသာမန်လူတစ်ယောက်ကို နဗီအဖြစ်လက်ခံလိုက်ရင် တောင် ဒီလောက် အပြစ်ကြီးတယ်ဆိုရင်) ရှမ်ဆာန်၊ ယူစွဖ်(သို့) စွဟာ ဗဟ်တစ်ပါးပါး (သို့) နဗီတစ်ပါးပါးကို အလ္လာဟ်ရဲ့ အဆင့်ထိပို့ပြီး အလ္လာဟ်နဲ့ယှဉ်ပြီး ကိုးကွယ်လိုက်မယ်ဆိုရင် အဲဒီလူရဲ့ အခြေအနေက ဘယ်လိုရှိမလဲ။ အလ္လာဟ်အရှင်မြတ်ဟာ သည့်လိုအဖြစ်မျိုးမှကင်းစင်ပါ တယ်။ အလ္လာဟ်အရှင်မြတ်ရဲ့ အဆင့်က အလွန်ပဲ မြင့်မားလှပါတယ်။

## ~~အထင်အလွဲများကို ချေဖျက်ခြင်း~~

كَذٰلِكَ يَطۡبَعُ اللّٰهُ عَلٰى قُلُوۡبِ الَّذِيۡنَ لَا يَعۡلَمُوۡنَ ﴿۵۹﴾

"အလ္လာဟ်အရှင်မြတ်သည် မသိနားမလည်သည့် (အပြင်နားလည်ရန်ပင် မလိုလားသော)သူများ၏ စိတ်နှလုံးများအပေါ်တွင် ဤသို့ပင် တံဆိပ်ခတ်နှိပ်တော်မူသည်။" (ကုရ်အာန် - ၃၀း၅၉)

ဒီလိုလည်းအဖြေပေးလို့ရသေးတယ်။

အလီ رضي الله عنه မီးရှို့သတ်ခဲ့တဲ့ လူတွေဟာလည်း ကိုယ့်ကိုယ်ကိုယ် မွတ်စ်လင်မ်လို့ပြောတဲ့လူတွေပဲ ဖြစ်တယ်။ ဒါ့အပြင် သူတို့ဟာ အလီ ﷺ ရဲ့ ဘက်တော်သားများလည်း ဖြစ်ခဲ့ကြတယ်။ သူတို့ဟာ စွဟာဗဟ်တွေ ထံကနေ ပညာလည်း သင်ယူခဲ့ကြတယ်။ ဒါပေမဲ့ သူတို့ဟာ ယူစွဖ်၊ ရှမ်ဆာန် စသည့်သခင်ကြီး၊ ဘာဘာကြီးတို့အပေါ် လူတွေ ယုံကြည်ချက်ထားကြသလိုမျိုး အလီ ﷺ နဲ့ ပတ်သက်ပြီး ထားခဲ့ကြတယ်။ (အလီ رضي الله عنه ကို ဘုရားတစ်ဆူလို ကိုးကွယ်ခဲ့ကြတယ်။)

သူတို့တစ်တွေဟာ ကိုယ့်ကိုယ်ကိုယ် မွတ်စ်လင်မ်ပါလို့ ပြောနေကြပေမဲ့ သူတို့ကို သတ်ဖြတ်ရာမှာ၊ သူတို့ကို ကာဖိရ်ဖြစ်ကြောင်း သတ်မှတ်ရာမှာ စွဟာဗဟ်တွေ ဘာဖြစ်လို့ ညီညွတ်ခဲ့ကြတာလဲ။ ဘာလဲ၊ စွဟာဗဟ်တွေဟာ မွတ်စ်လင်မ်တွေကို ကာဖိရ်တွေအဖြစ် သတ်မှတ်တယ်လို့ ခင်ဗျား ထင်သလား။ ဒါမှမဟုတ် အလီ ﷺ နဲ့ပတ်သက်ပြီး အဲဒီလို အယုံအကြည်ထားခြင်းကတော့ ကာဖိရ် ဖြစ်စေပြီး တခြားလူတွေနဲ့ ပတ်သက်ပြီး အဲဒီလို အယုံအကြည်ထားရင် ဘာမှမဖြစ်ဘူးဆိုတဲ့ သဘောလား။

ဒီလိုလည်း အဖြေပေးလို့ရသေးတယ်။

ဗနူအုဗိုင်ဒ်အလ်ကဒါဟ်ဟာ အဗ္ဗာစီယဟ်ခေတ်မှာ အနောက်တိုင်းတစ်ခုလုံးနဲ့ အီဂျစ်ရဲ့ဘုရင်ဖြစ်ခဲ့တယ်။ သူလည်း لَا إِلٰهَ إِلَّا اللّٰهُ ကို လက်ခံခဲ့ပါတယ်။

မွတ်စ်လင်မ်လို့ ပြောခဲ့ပါတယ်။ စွလာသ်ကို ဂျမာအသ်နဲ့ ဖတ်ခဲ့တယ်။ ဂျုမုအဟ်လည်း ဆောက်တည်ခဲ့တယ်။ ဒါပေမဲ့ သူဟာ (ကျွန်တော်တို့ ပြောနေတဲ့ သောင်ဟီးဒ်ကိစ္စလိုမျိုးတောင်မဟုတ်ဘဲ) ရှရီအသ်ရဲ့ တညီတညွတ်တည်း ကိစ္စတချို့ကို ဆန့်ကျင်ပြီး တလွဲတချော် လုပ်လာတဲ့အခါ သူဟာ ကာဖိရ်ဖြစ်ကြောင်းနဲ့ သူ့ကို ဂျိဟာဒ်လုပ်ရမယ်ဆိုပြီး အစ္စလာမ့် ပညာရှင်တွေက ညီညွတ်စွာ ဖသ်ဝါထုတ်လိုက်ကြတယ်။ ပြီးတော့ သူ့ရဲ့ မြို့တော်တွေကိုလည်း စစ်မြေပြင်အဖြစ် သတ်မှတ်ခဲ့တယ်။ အဲဒီလိုနဲ့ မွတ်စ်လင်မ်တွေဟာ သူနဲ့ဂျိဟာဒ်လုပ်ပြီး သူ့လက်အောက်ကနေ မွတ်စ်လင်မ်တွေ နေနေတဲ့ မြို့တော်တွေအားလုံးကို ကယ်ထုတ်ခဲ့တယ်။

ဒီလိုလည်းအဖြေပေးလို့ရသေးတယ်။ ပထမခေတ်မှာ ရှိတဲ့ မုရ်ှရိက်တွေ ကာဖိရ်ဖြစ်ရခြင်းရဲ့ အကြောင်းရင်းတွေက ရှိရ်က်လုပ်ခြင်း၊ တမန်တော်နဲ့ကုရ်အာန်ကိုငြင်းခြင်း၊သေပြီးနောက်ပြန်လည်ရှင်ထရမှာကို လက်မခံခြင်း စတာတွေမို့လို့ ဆိုရင် (မုရ်သဒ်ခေါ်) အစ္စလာမ် သာသနာကို ပြန်လည်စွန့်လွှတ်သွားသူနှင့် ပတ်သက်သည့်အမိန့်များဆိုပြီး မက်ဇ်ဟဗ်တိုင်းရဲ့ ဖိကဟ်စာအုပ်တွေမှာ ဖော်ပြထားတာတွေက ဘာအဓိပ္ပာယ်တွေလဲ။

ပညာရှင်တွေဟာ ဘာသာပျက်ခြင်းရဲ့ အမျိုးအစားများစွာ ဖော်ပြထားကြတယ်။ အဲဒီအမျိုးအစားတွေထဲက တစ်မျိုးတိုင်းဟာ ကာဖိရ်ဖြစ်စေပြီး၊ သူ့ရဲ့ အသက်နဲ့ဥစ္စာတွေဟာ (ကာဖိရ်ရဲ့ အသက်နဲ့ ဥစ္စာပစ္စည်းတွေလိုပဲ) ဟလားလ်ဖြစ်သွားတယ်။ ပညာရှင်တွေ ဘယ်လောက်ထိ ဖော်ပြကြသလဲဆိုရင် ကာဖိရ်ဖြစ်စေတဲ့ သေးသေးမွှားမွှားကိစ္စတွေကိုကအစ ဖော်ပြထား ကြတယ်။ ဥပမာ– စိတ်ထဲကတောင်မပါဘဲ သို့မဟုတ် နောက်သလိုလိုနဲ့ ကုဖ်ရ်စကားတစ်ခုကို ပြောလိုက်တာနဲ့တောင်

ကာဖိရ်ဖြစ်သွားတယ်ဆိုပြီး ဖော်ပြကြတယ်။

ဒီလိုလည်း အဖြေပေးလို့ရတယ်။ လူတစ်စုနဲ့ ပတ်သက်ပြီး အလ္လာဟ်က ဒီအာယသ်တော်ကို ချပေးခဲ့တယ်။

يَحْلِفُوْنَ بِاللّٰهِ مَا قَالُوْا ؕ وَلَقَدْ قَالُوْا كَلِمَةَ الْكُفْرِ وَكَفَرُوْا بَعْدَ اِسْلَامِهِمْ

"သူတို့သည် အလ္လာဟ်အရှင်မြတ်အား တိုင်တည်ပြီး သူတို့သည် (ထိုစကားကို)မပြောဆိုခဲ့ပါဟု ကျိန်ဆိုကြသည်။ အမှန်စင်စစ် သူတို့သည် ကုဖ်ရ်ငြင်းပယ်သောစကားကို အမှန်ပင် ပြောဆိုခဲ့ကြသည်။ ၎င်းပြင် သူတို့သည် သူတို့၏ အစ္စလာမ်နောက်တွင် ကုဖ်ရ်ငြင်းပယ်မှု ပြုလုပ်ခဲ့ကြသည်။" (ကုရ်အာန်-၉း၇၄)

တမန်တော့်ခေတ်မှာရှိခဲ့ပြီး တမန်တော်နဲ့အတူ ဂျိဟာဒ်လည်း လုပ်ခဲ့တဲ့၊ စွလာသ်လည်း ဝတ်ပြုတဲ့၊ ဇကားသ် လည်းပေးဆောင်ခဲ့တဲ့၊ ဟဂ်ျလည်းလုပ်ခဲ့တဲ့၊ အလ္လာဟ်တစ်ပါးတည်းကို ကိုးကွယ်ခြင်းလည်း ပြုခဲ့တဲ့လူတွေကို အလ္လာဟ်က ကာဖိရ်လို့ မိန့်နေတာ အသင် မကြားဘူးလားဗျ။ နောက်တစ်နေရာမှာလည်း ဒီလိုလူတွေကို ရည်ညွှန်းပြီး အလ္လာဟ်က မိန့်ထားတယ်။

قُلْ اَ بِاللّٰهِ وَ اٰيٰتِهٖ وَ رَسُوْلِهٖ كُنْتُمْ تَسْتَهْزِءُوْنَ ﴿٦٥﴾ لَا تَعْتَذِرُوْا قَدْ كَفَرْتُمْ بَعْدَ
اِيْمَانِكُمْ ؕ اِنْ نَّعْفُ عَنْ طَآىِٕفَةٍ مِّنْكُمْ نُعَذِّبْ طَآىِٕفَةًۢ بِاَنَّهُمْ كَانُوْا مُجْرِمِيْنَ ﴿٦٦﴾

ထို့ပြင် အကယ်၍ အသင်(တမန်တော်)သည် သူတို့အား မေးမြန်းခဲ့လျှင် အမှန်စင်စစ် သူတို့က "ကျွန်ုပ်တို့သည် မည်သည့်အရာကိုမျှ မရည်ရွယ်ဘဲပြောနေကြခြင်းနှင့် ရယ်စရာပြောနေကြခြင်းသာ ဖြစ်ကြပါသည်"ဟု ပြောဆိုကြမည်။ (အို-တမန်တော်)အသင်ပြောလိုက်ပါ- " အသင်တို့သည် အလ္လာဟ်အရှင်မြတ်နှင့် အရှင်မြတ်၏ အာယသ်တော်များ

အပြင်အရှင်မြတ်၏တမန်တော်ကိုပြက်ရယ်ပြောင်လှောင်နေကြသလော။ အသင်တို့သည် အကြောင်းမပြကြလေနှင့်။ အမှန်စင်စစ် အသင်တို့သည် အသင်တို့ အီမာန်ယုံကြည်(သည်ကို ထုတ်ဖော်ပြောဆို)ပြီး နောက် သွေဖည်ငြင်းပယ်ခဲ့ကြသည်။ အကယ်၍ ငါအရှင်မြတ်သည် အသင်တို့ ထဲမှ လူတစ်စုကို ခွင့်လွှတ်တော်မူလျှင်လည်း အခြားလူတစ်စုကိုမူ မှန်စင်စစ် သူတို့သည် ပြစ်မှုထင်ရှားသောသူများ ဖြစ်ခြင်းကြောင့် ပြစ်ဒဏ်ပေးတော်မူမည်ပင်ဖြစ်သည်။" (ကုရ်အာန် – ၉း၆၅၊၆၆)

အလ္လာဟ်မိန့်ထားတဲ့ ဒီလူတွေဟာ တကယ်တော့ သဗူးက်စစ်ပွဲမှာ တမန်တော်မြတ်ﷺနဲ့အတူ လိုက်ပါခဲ့ပြီး စကားတချို့ကို ပြောခဲ့ကြတဲ့ သူတွေ ဖြစ်တယ်။ အဲဒီစကားကို သူတို့ဟာ နောက်ပြောင်ပြီး ပြောခဲ့ကြတာ ပါလို့ သူတို့ပြောခဲ့ကြတယ်။ အဲဒါတောင်မှ သူတို့တစ်တွေဟာ အီမာန်ယုံ ကြည်ပြီးနောက်မှာ ကာဖိရ်တွေဖြစ်သွားကြပြီလို့ အလ္လာဟ်က ရှင်းရှင်းကြီး မိန့်တော်မူထားတယ်။

အဲဒီတော့ များသောအားဖြင့် သူတို့တက်လေ့ရှိတဲ့ စောဒကကို ကြည့်ပါဦး။ သူတို့က ပြောကြတယ်။ "ကလိမဟ် လာအိလာဟ အိလ္လလ္လာဟ်ကို ဖတ်ရွတ်သက်သေခံထားတဲ့၊ စွလာသ်နဲ့ စောင်မ်ကို စွဲမြဲစွာဆောက်တည်တဲ့ လူကို ကာဖိရ်ဖြစ်တယ်လို့ အသင်တို့ပြောနေ ကြတာပဲ"တဲ့။

အဲဒီစောဒကရဲ့ အဖြေကိုလည်း သေချာစဉ်းစားကြည့်ပါ။ တကယ်တော့ ဒီအဖြေဟာ ဒီစာရွက်ကလေးတွေထဲမှာ အကျိုးအရှိဆုံးပါပဲ။ ထိုအပေါ်မှာ (ဆိုလိုတာ လူသားဟာ မသိဘဲ ပြောလိုက်မိတဲ့ တချို့စကား သို့မဟုတ် တချို့လုပ်ရပ်ကြောင့် ကာဖိရ်တောင် ဖြစ်နိုင်တယ် ဆိုတဲ့အချက် ပေါ်မှာ) နောက်ထပ်အထောက်အထား တစ်ခုကတော့ ဗနီအစ္စရာအီလ်နဲ့ ပတ်သက်ပြီး အလ္လာဟ်ပြောထားတဲ့ ကုရ်အာန်အာယသ်ပဲ ဖြစ်တယ်။

အဲဒီဗနီအစ္စရာအီလ်တွေဟာ မွတ်စ်လင်မ်တွေ ဖြစ်တဲ့အပြင် အသိရှိသူတွေ၊ လူကောင်းတွေ ဖြစ်ကြပါလျက် မူဆာ ﷺထံမှာ အခုလို တောင်းဆိုခဲ့ကြတယ်။

اجْعَلْ لَّنَآ اِلٰهًا كَمَا لَهُمْ اٰلِهَةٌ

"အသင်သည် ကျွန်ုပ်တို့အတွက်လည်း သူတို့တွင်ရှိသော ကိုးကွယ်ရာများကဲ့သို့ ကိုးကွယ်ရာတစ်ဆူ ပြုလုပ်ပေးပါ။" (ကုရ်အာန်-၇း၁၃၈)

ဒီလိုပဲ စွဟာဗဟ်တွေထဲက တချို့ဟာ တမန်တော့်ဆီမှာ ဒီလို တောင်းဆိုခဲ့ကြတယ်။ (اجعل لنا ذات أنواط) ကျွန်တော်တို့အတွက်လည်း ဇာသုအန်ဝါးသွ် တစ်ခုပြုလုပ်ပေးတော်မူပါ။ အဲဒီအချိန်မှာ တမန်တော်မြတ်ﷺဟာ ကစမ်ကျိန်ဆိုပြီး သည်လိုမိန့်ကြားခဲ့တယ်။ အသင်တို့ရဲ့ တောင်းဆိုမှုဟာ اجْعَلْ لَّنَآ اِلٰهًا "အသင်သည် ကျွန်ုပ်တို့အတွက်လည်း ကိုးကွယ်ရာတစ်ဆူ ပြုလုပ်ပေးပါ။" (ကုရ်အာန်၇း၁၃၈) ဆိုပြီး ဗနီအစ္စရာအီလ်တွေ တောင်းဆိုခဲ့တာနဲ့ တူတူပဲလို့ (မိန့်တော်မူခဲ့သည်)။

ဒီအကြောင်းအရာနှစ်ခုကို တင်ပြပြီးဆိုရင် မုရှ်ရိက်တွေက အခုလို စောဒကတက်ကြတယ်။ "ဒီစကားတွေကို ပြောခဲ့ပေမဲ့ ဗနီအစ္စရာအီလ်တွေဟာ ကာဖိရ်အဖြစ် သတ်မှတ်မခံခဲ့ရသလို တမန်တော့်ဆီ အဲဒီလို တောင်းဆိုခဲ့တဲ့ ဆွဟာဗဟ်တွေလည်း ကာဖိရ်အဖြစ်သတ်မှတ်မခံခဲ့ရပါဘူး"တဲ့။

အဖြေကတော့ ဒီလိုရှိပါတယ်။

"ဗနီအစ္စရာအီလ်တွေဟာ မုချတောင်းဆိုခဲ့ပေမဲ့ သူတို့ဟာ တကယ်လက်တွေ့ မလုပ်ခဲ့ပါဘူး။ အကယ်၍ သူတို့ဟာ လက်တွေ့တကယ် လုပ်ခဲ့မယ်ဆိုရင် မုချကာဖိရ်ဖြစ်မှာပဲ။ ထို့အတူ တမန်တော်မြတ်ﷺရဲ့

## ~~အထင်အလွဲများကို ချေဖျက်ခြင်း~~

ဆွဟာဗဟ်တွေဟာ တမန်တော်မြတ်ﷺတားမြစ်ပြီးနောက်လည်း အဲဒီ အလုပ်ကို တကယ်လုပ်ခဲ့မယ်ဆိုရင် သူတို့လည်း မုချ ကာဖိရ်ဖြစ်မှာပဲ။ အဲဒီကိစ္စမှာ ဘာအကွဲအလွဲမှ မရှိဘူး။ ဒါကိုပဲ ပြောချင်တာ။

ဒါပေမဲ့ ဒီအကြောင်းအရာနှစ်ခုထဲကနေ ဘာအကျိုးအမြတ် ရလိုက်လဲဆိုတော့ တစ်ခါတလေ မွတ်စ်လင်မ်တစ်ယောက်–သို့သာမက ပညာရှင်တစ်ယောက်–ဟာ ရှိရ်က်မှာ နစ်မွန်းနေပြီး အဲဒါကို သူမသိဘူး ဖြစ်နေတတ်တယ်ဆိုတာပါပဲ။ ဒါကြောင့် ရှိရ်က်နဲ့ ပတ်သက်ပြီး သိသင့်တာ တွေကို သင်ယူထားဖို့၊ ရှောင်ရှားနိုင်ဖို့ အရေးကြီးပါတယ်။ "ငါရှိရ်က် အကြောင်း ကောင်းကောင်းသိပြီလို့ ပြောတဲ့ အသိဉာဏ်မဲ့သူရဲ့ စကားဟာ အကြီးမားဆုံး အသိဉာဏ်တုံးခြင်း ဖြစ်ရုံမက ရှိုင်သွာန်ရဲ့ ကြော့ကွင်း တစ်ခုလည်း ဖြစ်တယ်ဆိုတာ သိထားသင့်ပါတယ်။

ဒုတိယအချက်အနေနဲ့ ဒီအကြောင်းအရာကနေ ဘာသိရသလဲ ဆိုတော့ မွတ်စ်လင်မ်တစ်ယောက်ဟာ မသိလို့ ကွဖ်ရ်စကားတစ်ခုကို ပြောမိပြီး သိသွားတာနဲ့ ချက်ချင်း သောင်ဗဟ်အမှား ဝန်ခံလိုက်မယ်ဆိုရင် သူဟာ ကာဖိရ်မဖြစ်ပါဘူးဆိုတာပါပဲ။ ဥပမာ– ရှိရ်က်နဲ့ ပတ်သက်တာကို တောင်းဆိုခဲ့တဲ့ ဗနီအစ္စရာအီလ်နဲ့ တမန်တော့်စွဟာဗဟ်တွေလိုပေါ့။ သူတို့ဟာ ကာဖိရ်မဖြစ်ခဲ့ပါဘူး။

တတိယအချက် ဒီအကြောင်းအရာကနေ ဘာသိရသလဲဆိုတော့ အဲဒီရှိရ်က်စကားကို ပြောပြီး ချက်ချင်းသောင်ဗဟ်လုပ်ရင် ကာဖိရ်မဖြစ် ပေမဲ့ အဲဒီလိုစကားဟာ သိပ်ကို အပြစ်ကြီးပါတယ်ဆိုတာပါပဲ။ ဒါကြောင့် လည်း အဲဒီလိုတောင်းဆိုလာတဲ့ ဆွဟာဗဟ်တွေကို တမန်တော်က ပြင်းပြင်းထန်ထန် တုန့်ပြန်အဖြေပေးခဲ့ပါတယ်။

မုရှ်ရိက်တွေဆီမှာ နောက်ထက်စောဒက တစ်ခုရှိပါတယ်။

# ~~အထင်အလွဲများကို ချေဖျက်ခြင်း~~

အုစာမဟ်رضي الله عنهဟာ စစ်ပွဲမှာ لَا إِلٰهَ إِلَّا اللّٰهُ ဆိုသူကို သတ်ပစ်လိုက်လို့ အဲဒီပေါ်မှာ တမန်တော်က အလွန်စိတ်ဆိုးကြောင်း ထုတ်ဖော်ခဲ့တယ်။ ပြီးတော့ ဒီလိုမိန့်ခဲ့တယ်။ لَا إِلٰهَ إِلَّا اللّٰهُ ဖတ်ပြီးတဲ့နောက်လည်း အသင်သူ့ကို သတ်ပစ်ခဲ့တယ်ဟုတ်လား။ ပြီးတော့ တမန်တော်က သည်လိုလည်း မိန့်တော်မူထားတယ်။

أُمِرْتُ أَنْ أُقَاتِلَ النَّاسَ حَتّٰى يَقُوْلُوْا لَا إِلٰهَ إِلَّا اللّٰهُ

လူတွေကို သူတို့တစ်တွေ لَا إِلٰهَ إِلَّا اللّٰهُ မဖတ်မချင်းတိုက်ဖို့ ငါကိုယ်တော်အမိန့်ပေးခံခဲ့ရတယ်။ لَا إِلٰهَ إِلَّا اللّٰهُ ဆိုပြီးတဲ့ မွတ်စ်လင်မ်ကို ဆက်လက်ပြီး စစ်မတိုက်ရဆိုတဲ့ တားမြစ်ချက်လာထားတဲ့ ဟဒီးဆ်တွေ နောက်လည်းအများကြီးရှိပါတယ်။

ဒါပေမဲ့ ကလိမဟ်ဖတ်ပြီးတဲ့လူဟာ နောက်ဘယ်တော့မှ ကာဖိရ်မဖြစ်တော့ဘူး။ သူ ကြိုက်တာလုပ်ပါစေ။ ဘယ်လိုအကြောင်းမျိုးနဲ့မှ သူ့ကို သတ်လို့မရတော့ဘူးလို့ အပေါ်က စောဒကတက်သည့်၊ အသိဉာဏ်ချို့တဲ့သည့် လူက ထင်နေတယ်။

အဲဒီလိုအသိဉာဏ်ချို့တဲ့သူကို ဒီလိုအဖြေပေးရပါမယ်။ တမန်တော်မြတ်ﷺဟာ ယဟူဒီတွေကို စစ်တိုက်ခဲ့တယ်။ သူတို့ကို အကျဉ်းသားအဖြစ်လည်း ဖမ်းဆီးခဲ့တယ်။ တကယ်တမ်းဆို သူတို့ لَا إِلٰهَ إِلَّا اللّٰهُ ကို ထောက်ခံကြတာပဲ။ တမန်တော့်စွဟာဗဟ်တွေလည်း ဗနူဟနီဖဟ်တွေကို စစ်တိုက်ခဲ့တယ်။ တကယ်ဆို သူတို့လည်း لَا إِلٰهَ إِلَّا اللّٰهُ နဲ့ တမန်တော့်ကို ထောက်ခံတဲ့အပြင်စွလာသ်လည်းဖတ်ကြတယ်။မွတ်စ်လင်မ်ဖြစ်တယ်လို့လည်း ကြွေးကြော်ကြတယ်။ အလီرضي الله عنه မီးရှို့ပြစ်ဒဏ်ပေးခဲ့တဲ့ လူတွေလည်း لَا إِلٰهَ إِلَّا اللّٰهُ ကို လက်ခံပြောဆိုတဲ့ သူတွေပဲ ဖြစ်တယ်။

ဘယ်လောက်ပဲ لَا إِلٰهَ إِلَّا اللّٰهُ ဖတ်ပြီး လက်ခံနေသူပဲ ဖြစ်ပါစေ၊

သူဟာ သေပြီး ပြန်ရှင်ရမှာကို ငြင်းဆန်မယ်ဆိုရင် သူဟာ ကာဖိရ်ဖြစ်တယ်၊ သူနဲ့စစ်ခင်းခြင်းပိုင်တယ်ဆိုတာကိုတော့ ဒီပညာမဲ့တွေ လက်ခံကြတယ်။ စဉ်းစားစရာဖြစ်လာတာက အစ္စလာမ်ရဲ့ အကိုင်းအလက်တွေထဲက အကိုင်းအလက်တစ်ခုခုကို ငြင်းဆိုလိုက်မယ်ဆိုရင်တောင် သူ့ရဲ့ကလိမဟ်ဖတ်ခြင်းက သူ့ကို ဘာအကျိုးမှ မပေးနိုင်ဘူး။ ဒါပေမဲ့ အစ္စလာမ်ရဲ့ (အဓိကမဏ္ဍိုင်လည်းဖြစ်၊) နဗီတမန်တော်တွေ အားလုံးရဲ့ သာသာနာရဲ့ အနှစ်ချုပ်လည်းဖြစ်တဲ့ သောင်ဟီးဒ်ကို ငြင်းဆိုလိုက်မယ်ဆိုရင်တော့ သူ့အတွက် သူ့ရဲ့ကလိမဟ်ဖတ်ခြင်းက အကျိုးပြုမယ်တဲ့လား။ အံ့ပဲ့ဗျာ။

အမှန်တော့ အလ္လာ့ဟ်ရန်သူတွေဟာ ဟဒီးဆ်က ဘာကို ဆိုလိုသလဲဆိုတာကိုတောင် မသိကြတာပါ။ အုစာမဟ်ﷺအကြောင်း လာရှိတဲ့ ဟဒီးဆ်နဲ့ပတ်သက်ပြီးပြောရမယ်ဆိုရင် အုစာမဟ်ﷺဟာ အဲဒီလူကို မိမိရဲ့ အသက်နဲ့ဥစ္စာ အကာအကွယ် ရရန်အတွက်သက်သက် မွတ်စ်လင်မ်ဖြစ်ပါကြောင်း ထုတ်ဖော်ခဲ့တဲ့လူလို့ ထင်မှတ်ပြီးတော့ သူ့ကို သတ်ခဲ့တာပါ။ အမှန်မှာ လူတစ်ယောက်ဟာ မွတ်စ်လင်မ်ဖြစ်ကြောင်း သိရရင် သူ့ဆီကနေ ရှရီအသ်နဲ့ ဆန့်ကျင်တဲ့အရာတစ်ခုခု မပေါ်သမျှကာလပတ်လုံး သူ့ကို သတ်လို့မရပါဘူး။ အဲဒါနဲ့ ပတ်သက်ပြီး အလ္လာဟ်အရှင်မြတ်က အာယာတ်တော်ချပေးထားပါတယ်။

يَاَيُّهَا الَّذِيْنَ اٰمَنُوْٓا اِذَا ضَرَبْتُمْ فِيْ سَبِيْلِ اللّٰهِ فَتَبَيَّنُوْا

"အို - အီမာန်ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် အလ္လာဟ် အရှင်မြတ်၏ လမ်းတော်တွင်(စစ်တိုက်ရန်) ခရီးထွက်ကြသောအခါ (ရန်သူနှင့် မိတ်ဆွေခွဲခြားနိုင်ရန်) စုံစမ်းစစ်ဆေးကြပါ။" (ကုရ်အာန် - ၄း၉၄)

ဒီအာယသ်မှာပါတဲ့ فَتَبَيَّنُوْا ဆိုတဲ့ ဆိုလိုရင်းက သေချာစမ်းစစ်သုံးသပ်ပြီး အလုပ်တစ်ခု လုပ်တာကို ဆိုလိုတယ်။ ဒီကနေ သိရတာက

“သူ့ပေါ်ကျရောက်မဲ့ မိမိလက်ကို ချက်ချင်းပြန်ရုတ်လိုက်ရမယ်။ သေချာ ပြန်သုံးသပ်တဲ့အခါ သူ့ဆီကနေ အစ္စလာမ်နဲ့ဆန့်ကျင်တဲ့အရာ တစ်ခုခု ပေါ်လွင်လာရင် သူ့ကို သတ်ရလိမ့်မယ်။” လို့ဖြစ်သည်။

အကယ်၍ သောင်ဟီးဒ်ရဲ့ စကားကို လက်ခံပြောဆိုတဲ့သူကို ဘယ်လိုအခြေအနေ မျိုးမှာမှ သတ်လို့မရတော့ဘူးဆိုရင် “အသင်တို့ သေချာစမ်းစစ်ကြ” ဆိုတဲ့ စကားက အဓိပ္ပာယ်မဲ့သွားလိမ့်မယ်။ အထက် ဖော်ပြပါ ဟဒီးဆ်တွေ အားလုံးရဲ့ ဆိုလိုရင်းက ဒီအတိုင်းပဲ ဖြစ်ပါတယ်။ ဆိုလိုတာက လူတစ်ယောက် မွတ်စ်လင်မ်ဖြစ်တယ်ဆိုတာ သိရရင် သူ့ဆီကနေ အစ္စလာမ်နဲ့ ဆန့်ကျင်တဲ့ အရာတစ်ခုခု မပေါ်မချင်း သူ့ကို သတ်လို့မရပါဘူး။

အဲဒါရဲ့ အထောက်အထားကတော့- أَقَتَلْتَهُ بَعْدَ مَاقَالَ لَاإِلٰهَ إِلَّااللّٰهُ (သူဟာ ကလိမဟ် ဖတ်ပြီးတဲ့နောက်လည်း အသင်ဟာ သူ့ကို သတ်ခဲ့ တယ်ဟုတ်လား)နဲ့ أُمِرْتُ أَنْ أُقَاتِلَ النَّاسَ حَتّٰى يَقُوْلُوْا لَاإِلٰهَ إِلَّااللّٰهُ (လူတို့ ကလိမဟ် ဖတ်ကြသည်အထိ သူတို့ကို တိုက်ခိုက်ဖို့ ငါကိုယ်တော် အမိန့်ပေးခြင်း ခံရတယ်) ဟု မိန့်ခဲ့တဲ့ တမန်တော်က ခဝါရိဂျ်တွေနဲ့ ပတ်သက်ပြီး أَيْنَمَا لَقِيْتُمُوْهُمْ فَاقْتُلُوْهُمْ لَئِنْ أَدْرَكْتُهُمْ لَأَقْتُلَنَّهُمْ قَتْلَ عَادٍ (သူတို့ကို ဘယ်နေရာမှာပဲ တွေ့တွေ့ သတ်ပစ်ကြ။ အကယ်၍ ငါကိုယ်တော်သာ သူတို့ကို တွေ့ခဲ့ရင် အားဒ်မျိုးနွယ်တွေသတ် ခံရသလိုမျိုး သူတို့ကို သတ်ပစ်မယ်။) လို့ မိန့်ခဲ့တယ်။

တကယ်တမ်းဆိုရင် ဒီခဝါရိဂျ်တွေဟာ အများမွတ်စ်လင်မ်တွေ ထက်ပိုပြီး အိဗာဒသ်လည်း လုပ်ကြသလို သတ်စ်ဗီးဟ်ဘာဝနာစီးဖြန်း ခြင်းကို အများမွတ်စ်လင်မ်တွေထက် ပိုလုပ်ကြတယ်။ စွဟာဗဟ်တွေ တောင် သူတို့နဲ့ယှဉ်ရင် မိမိတို့ရဲ့ စွလာသ်တွေကို ဘာမှ မပြောပလောက်

ဘူးလို့ ထင်ကြတယ်။ သူတို့တစ်တွေဟာ စွဟာဗဟ်တွေဆီကနေ ပညာသင်ခဲ့သူတွေဖြစ်တယ်။ သို့ပေမဲ့လည်း သူတို့ရဲ့ ဘာဝနာပွားများခြင်းတွေဟာ သူတို့ကို ဘာမှအကျိုးမပြုနိုင်ခဲ့ဘူး။ အဲဒီထက် ပိုဆိုးတာက သူတို့ဟာ ကိုယ့်ကိုယ်ကိုယ် မွတ်စ်လင်မ်ပါဆိုပြီး ကြွေးကြော်ပေမဲ့လည်း ရှရီအသ်နဲ့ ဆန့်ကျင်တဲ့အရာတွေဟာ သူတို့ဆီကနေ ပေါ်ခဲ့ပြီဖြစ်တဲ့အတွက် သူတို့ရဲ့ အစ္စလာမ်ကလည်း သူတို့ကို အကျိုးမပြုနိုင်ခဲ့ဘူး။

ယဟူဒီတွေ၊ ဗနူဟနီဖာတွေနဲ့ စစ်ဖြစ်ခဲ့တာလည်း ဒီအတိုင်းပါပဲ။ ဒီလိုအဖြစ်အပျက်မျိုး ဗနူမွတ်စ်သွလစ်က်နဲ့လည်း ကြုံဖူးခဲ့တယ်။ သူတို့တစ်တွေဟာ ဇကာသ်ပေးဆောင်ခြင်းကို ငြင်းဆန်လိုက်ပြီလို့ တမန်တော့်ဆီ သတင်းရောက်လာတဲ့အခါမှာ တမန်တော်ဟာ သူတို့ကို စစ်တိုက်ဖို့ ပြင်ဆင်ခဲ့တယ်။ ဒါပေမဲ့ တမန်တော့်ဆီရောက်လာတဲ့ သတင်းက အမှားဖြစ်နေလို့ အချိန်မီ အလ္လာဟ်က တမန်တော့်ကို ဝဟီပေးပြီး သတင်းပို့ခဲ့တယ်။

يَاَيُّهَا الَّذِيۡنَ اٰمَنُوۡۤا اِنۡ جَآءَكُمۡ فَاسِقٌۢ بِنَبَاٍ فَتَبَيَّنُوۡۤا اَنۡ تُصِيۡبُوۡا قَوۡمًۢا بِجَهَالَةٍ
فَتُصۡبِحُوۡا عَلٰى مَا فَعَلۡتُمۡ نٰدِمِيۡنَ ۝٦

"အို- အီမာန်ယုံကြည်သူအပေါင်းတို့၊ အကယ်၍ အကျင့်ပျက်သူတစ်စုံတစ်ဦးသည် အသင်တို့ထံသို့ သတင်းတစ်စုံတစ်ခု ယူဆောင်လာခဲ့လျှင် အသင်တို့သည် မသိဘဲနှင့် လူမျိုး တစ်မျိုးအား အန္တရာယ် မပြုမိကြရန်အတွက် (ထိုသတင်း)မှန်မမှန်ကို စစ်ဆေးလေ့လာကြပါ။ (ထိုသို့မဟုတ်လျှင်)အသင်တို့သည် အသင်တို့ပြုမိခဲ့ကြသော လုပ်ရပ်ကြောင့် ဝမ်းနည်းကြေကွဲ ကြရမည်ဖြစ်သည်။" (ကုရ်အာန်- ၄၉း၆)

သတင်းပေးတဲ့လူက သတင်းအမှားပေးခဲ့လို့ အလ္လာဟ်က ဒီအာယသ်တော်ကို ချပေးခဲ့တယ်။ ဖော်ပြပါ အာယသ်တော်တွေနဲ့ ဟဒီးဆ်တော်တွေရဲ့ ရှင်းလင်း ဖွင့်ဆိုမှု အဓိပ္ပာယ်အမှန်ကတော့ ကျွန်တော်တို့

ဖော်ပြခဲ့တဲ့အတိုင်းပဲ ဖြစ်တယ်။

သူတို့မှာ စောဒက နောက်တစ်ခုရှိတယ်။ အဲဒါကတော့ တမန်တော်ရဲ့ ဒီဟဒီးဆ်တော်ပဲ ဖြစ်တယ်။ "ကိယာမသ်နေ့မှာ လူတွေဟာ အာဒမ် ﷺထံကနေ အကူအညီတောင်းလိမ့်မယ်။ ပြီးနောက် နူးဟ် ﷺ၊ ပြီးနောက် အိဗ်ရာဟီမ် ﷺ၊ ပြီးနောက် မူဆာ ﷺ၊ ပြီးနောက် အီဆာ ﷺတို့ အသီးသီးထံကို လူတွေဟာ သွားရောက်အကူအညီ တောင်းကြလိမ့်မယ်။ ဒါပေမဲ့ ဒီတမန်တော်တွေဟာ ဘယ်လိုမှ မကူညီနိုင်ကြောင်း အမျိုးမျိုး အကြောင်းပြလိမ့်မယ်။ နောက်ဆုံးမှာ လူတွေဟာ တမန်တော်မုဟမ္မဒ် ﷺထံကို ရောက်လာကြလိမ့်မယ်"တဲ့။

ဒီဟဒီးဆ်တော်နဲ့ သူတို့အထောက်အထား ပေးတာက ဘာလဲဆိုရင် "အလ္လာ့ဟ်အပြင် အခြားအဖန် ဆင်းခံတွေဆီကနေလည်း အကူအညီ တောင်းလို့ ပိုင်တယ်၊ ဒီလိုအကူအညီ တောင်းလိုက်လို့လည်း အဲဒီသူဟာ မုရှ်ရိက်မဖြစ်သွားဘူး"တဲ့။

အဲဒီစောဒကရဲ့ အဖြေကို ကျွန်တော်တို့ ဒီလိုပြောချင်ပါတယ်။

"မိမိရန်သူတွေရဲ့ နှလုံးသားတွေပေါ်မှာ တံဆိတ်ခတ်နှိပ်ထားတော်မူတဲ့ အရှင်ဟာ အလွန်သန့်ပြန့်စင်ကြယ်တော်မူပါတယ်။ အဖန်ဆင်းခံက ကူညီနိုင်တဲ့ ကိစ္စရပ်တိုင်းမှာ အဲဒီအဖန်ဆင်းခံဆီကနေ အကူအညီ တောင်းခြင်းပိုင်တယ်ဆိုတာကို ကျွန်တော်တို့ မငြင်းဆန်ပါဘူး။" အလ္လာဟ်ကိုယ်တော်တိုင် မူဆာ ﷺ အကြောင်းပြောရင်းနဲ့ မူဆာ ﷺထံကနေ အကူအညီတောင်းခဲ့တဲ့ လူတစ်ယောက်အကြောင်းလည်း မိန့်တော်မူထားတယ်။

فَاسْتَغَاثَهُ الَّذِي مِنْ شِيعَتِهِ عَلَى الَّذِي مِنْ عَدُوِّهِ

" (ထိုအထဲမှ)ဤတစ်ယောက်သည် ၎င်း၏အုပ်စုထဲမှ ဖြစ်ပြီး

အခြားတစ်ယောက်ကမူ ၎င်း၏ရန်သူများထဲမှ ဖြစ်ခဲ့သည်။ ထို့ပြင် ၎င်း၏ အုပ်စုထဲမှသူက ၎င်း၏ ရန်သူအုပ်စုထဲမှ သူနှင့် ဆန့်ကျင်ပြီး အကူအညီ အတင်းအကျပ်တောင်းခံခဲ့သည်။" (ကုရ်အာန်–၂၈း၁၅)

ဒါမျိုးတွေဟာ ဘယ်သူမှ မကင်းနိုင်တဲ့ လိုအပ်ချက်တွေ ဖြစ်တယ်။ မိမိဝေယျာဝိစ္စတွေ၊ စစ်ပွဲတွေမှာ လူတွေဟာ မိမိတို့ မိတ်ဆွေတွေဆီကနေ အကူအညီတောင်းလေ့ရှိပါတယ်။ အဲဒါကို မပိုင်ဘူးလို့ ကျွန်တော်တို့ မပြောပါဘူး။

ဝလီတွေရဲ့သင်္ချိုင်းမှာ သွားပြီး အဲဒီမုရှ်ရိက်တွေ သွားလုပ်ကြတဲ့ အိဗာဒသ်–ဆည်းကပ်ကိုးကွယ်မှုတွေကို ကျွန်တော်တို့ ငြင်းတာပါ။ ဒီလိုပဲ အဲဒီဝလီတွေဟာ အားလုံးကို မြင်နေရတယ်၊ ကြားနေရတယ်လို့ မှတ်ယူပြီး အဲဒီဝလီတွေကို အကွယ်ကနေ ဟစ်ခေါ်တသခြင်းတွေကို ကျွန်တော်တို့ ငြင်းဆန်တာပါ။

အခုအဲဒါကို အတည်ပြုပြီးဆိုရင် မှတ်ထားပါ။ ကိယာမသ်နေ့ ကျရင် ဂျန္နသီတွေဟာ စောင့်ဆိုင်းရခြင်းရဲ့ ဒုက္ခကနေ လွတ်မြောက်ပြီး၊ အမြန်ဆုံးအနားရပြီးဂျန္နသ်ရဲ့ဉယျာဉ်တွေထဲမှာရောက်ရှိနိုင်ဖို့ရန်အတွက် လူတို့ကို စစ်ဆေးမေးမြန်းခြင်းကဏ္ဍ စတင်ပေးလိုက်ဖို့ အလ္လာဟ်ထံမှာ ဒုအာတောင်းပေးကြပါလို့ နဗီတွေကနေတစ်ဆင့် တောင်းဆိုနိုင်းဖို့ ကြိုးပမ်းကြလိမ့်မယ်။ အလ္လာ့ဟ်ထံမှာ ဒုအာတောင်းပေးဖို့ နဗီတွေကို ဒီလို တောင်းဆိုတာ မမှားပါဘူး။ ဒီလိုတောင်းဆိုမှုမျိုးက လောကမှာရော တမလွန်မှာရော ပိုင်ပါတယ်။

အသက်ရှင်နေတဲ့ အလ္လာ့ဟ်ကျွန်တစ် ယောက်ထံ ခင်ဗျားသွားပြီး သူ့စကားတွေကို နားထောင်တာ၊ သူ့ကို မိမိအတွက် ဒုအာလုပ်ပေးဖို့ တောင်းဆိုတာ၊ ဒါတွေကို ဘယ်သူက မပိုင်ဘူးလို့ ပြောလဲ။ ဆွဟာဗဟ်

တွေကိုယ်တိုင်တောင် တမန်တော့်ဆီမှာ မိမိတို့ အတွက် ဒုအာတောင်းပေးဖို့ ပန်ကြားခဲ့တာရှိတယ်။ ဒါပေမဲ့ တမန်တော် ဆုံးပြီးတဲ့နောက် သူတို့ထဲက ဘယ်သူမှ တမန်တော့်ကဗရ်သချိုင်းမှာ သွားပြီး တမန်တော့်ဆီကနေ တောင်းခဲ့တာမရှိဘူး။ တမန်တော့်ဆီကနေ ဒုအာတောင်းဖို့ဆိုတာ ဝေးပါ သေးတယ်။ တမန်တော့်ကဗရ်အနားမှာနေပြီး အလ္လာဟ့်ထံ ဒုအာတောင်း တာကိုတောင် ရှေးပုဂ္ဂိုလ်မွန်တွေက မကြိုက်ကြပါဘူးဗျ။

အိဗ်ရာဟီးမ် ﷺရဲ့အကြောင်းအရာကို ပြောပြီး သူတို့မှာ နောက် စောဒကတစ်ခု ရှိပါတယ်။ အိဗ်ရာဟီးမ် ﷺဟာ မီးထဲထည့်ခံရတဲ့အခါမှာ ဂျိဗ်ရာအီးလ် ﷺဟာ လေထဲမှာ ပျံလာပြီး နဗီကြီးကို ဘာလိုအပ်သလဲလို့ မေးမြန်လျှောက်ထားခဲ့တယ်။ အိဗ်ရာဟီးမ် ﷺက ဖြေတယ်။ အသင့်ထံက နေ ကျွန်ုပ်ဘာမှ မလိုဘူးတဲ့။ ဒီအကြောင်းအရာကို အထောက်အထားပြုပြီး သူတို့ စောဒကတက်တာက ဘာလဲဆိုရင် အကယ်၍သာ ဂျိဗ်ရာအီးလ် ﷺထံကနေ အကူအညီတောင်းခြင်းဟာ ရှိရ်ကဖြစ်မယ်ဆိုရင် အိဗ်ရာဟီမ် ﷺကို ဒီလို မေးခွန်းမျိုးမေးမှာ မဟုတ်ဘူးတဲ့။

အဖြေကတော့...

“ဒီစောဒကလည်း အပေါ်က စောဒကလိုပါပဲ။ ဘာလို့လဲဆိုရင် ဂျိဗ်ရာ အီးလ် ﷺဟာ သူတတ်စွမ်းနိုင်တဲ့အကူအညီကိုပေးဖို့ မေးခဲ့တာဖြစ်တယ်။ ဂျိဗ်ရာအီးလ် ﷺနဲ့ ပတ်သက်ပြီး အလ္လာဟ်ကိုယ်တော်တိုင် ဒီလိုမိန့်ထား တာရှိပါတယ်။

شَدِيدُ الْقُوَىٰ ﴿٥﴾

“အလွန်အင်အားကြီးမားသူ ဖြစ်သည်။”(ကုရ်အာန်–၅၃း၅)

အကယ်၍ အလ္လာဟ်အရှင်မြတ်သာ ခွင့်ပြုလို့ အိဗ်ရာဟီးမ် ﷺကို ထည့်မဲ့ မီးနဲ့ မီးရဲ့ပတ်ပတ်လည်မှာ ရှိတဲ့ မြေတွေ၊ တောင်တွေကို မပြီး တစ်နေရာ ဆီကို လွင့်ပစ်ရမယ်ဆိုရင်လည်း အဲဒီကောင်းကင်တမန်ကြီးက တတ်စွမ်း

နိုင်ပါတယ်။ ဒီလိုပဲ အလ္လာဟ်အရှင်မြတ်သာ ခွင့်ပြုမယ်ဆိုရင် အိဗ်ရာဟီးမ် ﷺကို မပြီး တစ်နေရာကို ပို့ရမယ်ဆိုရင်လည်း သူတတ်စွမ်းနိုင်ပါတယ်။ မိုးကောင်းကင်ကို ပင့်ခေါ်လာခဲ့လို့ အမိန့်ပေးရင်လည်း သူလုပ်မှာပဲ။

အဲဒါနဲ့ လုံးဝ အံဝင်ခွင်ကျတဲ့ ဥပမာတစ်ခုကို တင်ပြရမယ်ဆိုရင် သူဌေးတစ်ယောက်ရှိတယ် ဆိုပါစို့။ သူ့မှာ မရေမတွက်နိုင်လောက်တဲ့ ဥစ္စာ ပစ္စည်းတွေရှိတယ်။ လူတစ်ယောက်ကို ဒုက္ခရောက်နေတာတွေ့လို့ သူက အဲဒီဆင်းရဲသားကို မိမိလိုအပ်ချက်ဖြည့်ဆည်းနိုင်ဖို့ ပိုက်ဆံတချို့ကို ချေးတဲ့အနေနဲ့ ဒါမှမ ဟုတ် လက်ဆောင်အနေနဲ့ ပေးချင်တယ်။ ဒါပေမဲ့ သူဆင်းရဲက ရှက်တဲ့ အတွက် ပိုက်ဆံမယူဘဲ ငြင်းလိုက်တယ်။ ပြီးတော့ ဘယ်သူမှ ကျေးဇူးဂုဏ် မဖော်နိုင်တဲ့ အလ္လာဟ်အရှင်မြတ်ကိုယ်တော်တိုင်ရဲ့ ချီးမြှင့်မှုကို ရတဲ့အထိ သီးခံပြီးနေတယ်။

အခုခင်ဗျားပဲ ပြောပါ။ ရှိရက်ရောနေတဲ့ အကူအညီတောင်းခြင်းမျိုးနဲ့ ဒါနဲ့ ဘာပတ်သက်မှု ရှိလို့လဲ။ ဩော်! သူတို့ နားလည်နိုင်ကြရင်ကောင်းမှာပဲ။

အခု ကျွန်တော့်စကားကို နိဂုံးချုပ်ပါမယ်။ ဒါပေမဲ့ နိဂုံးမချုပ်ခင် အလွန်အရေးကြီးတဲ့ ကိစ္စတစ်ခုကို ပြောချင်ပါတယ်။ ပထမပြောခဲ့တာတွေကို ခင်ဗျား နားလည်သွားမှာပါ။ အဲဒါကို သီးသန့်ပြောရတဲ့အကြောင်းကတော့ လူအများစု အဲဒီကိစ္စမှာ မှားတတ်ကြလို့ပါ။ ပြီးတော့ အရေးလည်းပါလို့ပါ။

အားလုံးတညီတညွတ်တည်း လက်ခံထားတဲ့ မတ်စ်အလဟ်တစ်ခုကတော့ သောင်ဟီဒ်ဆိုတာ နှလုံးသားနဲ့လက်ခံခြင်း၊ နှုတ်လျှာနဲ့လည်း လက်ခံခြင်း၊ ပြီးတော့ ခန္ဓာကိုယ်အစိတ် အပိုင်းတွေနဲ့ ကျင့်ကြံခြင်းကို ခေါ်ဆိုတယ်၊ ဆိုတာ အားလုံးတညီတည်း လက်ခံကြပါတယ်။ အကယ်၍ အဲဒီစည်းကမ်းချက်တွေထဲက တစ်ခုခု လျော့နေရင် လူဟာ မွတ်စ်လင်မ်

မဖြစ်နိုင်ပါဘူး။

အကယ်၍ တစ်ဦးတစ်ယောက်က သောင်ဟီးဒ်ကို သိရုံလေးနဲ့ပဲ တင်းတိမ်လိုက်မယ်။ အဲဒီပေါ်မှာ လက်တွေ့မရှိဘူးဆိုရင် သူဟာ ဖိရ်အောင်န်၊ အိဗ်လီးစ် စတဲ့ သူတွေလို ခေါင်းမာတဲ့ ကာဖိရ်ပဲ ဖြစ်တယ်။ သည်ကိစ္စမှာ လူအများစု အမှတ်မှားနေကြတယ်။ သူတို့ကပြောကြတယ်။ "ဒါဟာ အမှန်တရားဆိုတာ ကျွန်တော်တို့ နားလည်းသဘောပေါက်ပါတယ်။ ဒါဟာ မှန်တယ်လို့ ကျွန်ုပ်တို့ သက်သေလည်းခံပါတယ်။ ဒါပေမဲ့ ကျွန်ုပ်တို့ဆီမှာ ဒီအပေါ်မှာ အမလ်လုပ်ကျင့်ကြံဖို့ ခက်ခဲတယ်။ ဒီမှာ ဒါတွေကို အမလ်လုပ်ကျင့်သုံးပြီး၊ ဒီဒေသကလူတွေနဲ့ ဆန့်ကျင်ပြီး နေလို့ရမှာမဟုတ်ဘူး။ သူတို့နဲ့လိုက်ရောညီထွေအောင်နေမှ ဖြစ်မယ်။ စတဲ့အကြောင်းပြချက်တွေ သူတို့ ပေးကြတယ်။ တကယ့် ကာဖိရ်ခေါင်းဆောင်ကြီးတွေလည်း အမှန်တရားကို သိပြီး ဆင်ခြေတွေ အမျိုးအမျိုး ပေးပြီး အဲဒီအမှန်တရားကို စွန့်ပစ်လေ့ရှိခဲ့တယ်ဆိုတာ ဒီခမျာရှာတွေ မသိကြဘူးထင်တယ်။

اِشْتَرَوْا بِاٰيٰتِ اللّٰهِ ثَمَنًا قَلِيْلًا

"သူတို့သည် အလ္လာဟ်အရှင်မြတ်၏ အာယသ်တော်များဖြင့် အဖိုးငွေ အနည်းငယ်ကို လဲလှယ်ဝယ်ယူခဲ့ကြသည်။" (ကုရ်အာန်–၉း၉)

يَعْرِفُوْنَهٗ كَمَا يَعْرِفُوْنَ اَبْنَآءَهُمْ

"သူတို့၏ သားမြေးများကို သိရှိ(မှတ်မိ)ကြသကဲ့သို့ ထိုတမန်တော်(မုဟမ္မဒ်ﷺ)ကိုလည်းသိရှိ(မှတ်မိ)ကြသည်။(ကုရ်အာန်– ၂း၁၄၆)

ဒို့အပြင် အကယ်၍ တစ်ဦးတစ်ယောက်က သောင်ဟီးဒ်ကို နားမလည်ဘဲ(ဝါ)နားလည်အောင်မကြိုးစားဘဲ၊ သို့မဟုတ် စိတ်ထဲက မယုံဘဲ အပေါ်ယံအားဖြင့်သာ သောင်ဟီးဒ်ပေါ်မှာ အမလ်လုပ်တယ်

ဆိုရင် သူဟာ မုနာဖိက်ခေါ် အရေခြုံအယောင်ဆောင်သာ ဖြစ်တယ်။ ဒီလို သာသနာအရေခြုံတွေဟာ ရိုးရိုးကာဖိရ်တွေထက်တောင် ပိုဆိုးပါသေးတယ်။

اِنَّ الْمُنٰفِقِيْنَ فِى الدَّرْكِ الْاَسْفَلِ مِنَ النَّارِ

"အမှန်စင်စစ် မုနာဖိက်အယောင်ဆောင်မွတ်စ်လင်မ်များသည် ငရဲဘုံ၏ အောက်ဆုံး အထပ်တွင် ရှိကြမည်။ ထို့ပြင် အသင်သည် သူတို့အတွက် ကူညီမည့်သူ တစ်စုံတစ်ဦးကိုမျှ တွေ့ရမည်မဟုတ်ပေ။"

(ကုရ်အာန်−၄း၁၄၅)

အချုပ်ကို ပြောရမယ်ဆိုရင် ဒါဟာ အကျယ်တဝင့် တင်ပြဖို့ လိုအပ်တဲ့ မတ်စ်အလဟ် ဖြစ်တယ်။ အသင်ဟာ လူတွေရဲ့ စကားတွေကို သေချာစဉ်းစားကြည့်ပါ။ အဲဒီအခါကျရင် အမှန်တရားကို သေချာစွာသိပါလျက် လောကီအကျိုး သို့မဟုတ် ရာထူးဌာနန္တရ တချို့လျှော့မှာ စိုးလို့ ဒါမှမဟုတ် တစ်ဦးတစ်ယောက်ကို ဖားဖို့အတွက် အဲဒီအမှန်တရားကို စွန့်လွှတ်ထားတဲ့ လူတချို့ကို တွေ့ရမြင်ရပါမယ်။ နောက်ပြီး အတွင်းစိတ်ကမဟုတ်ဘဲ အပေါ်ယံ သက်သက်ပဲ အမလ်လုပ်တဲ့ လူတချို့ကိုလည်း အသင်တွေ့မြင်ရလိမ့်မယ်။ သူနှလုံးသားနဲ့ ဘာကို ယုံကြည်သလဲလို့ သူ့ကိုမေးကြည့်ရင် သူဟာ ဘာမှနားမလည်တာကို အသင် တွေ့ရလိမ့်မယ်။ ဒါပေမဲ့ ကျမ်းမြတ်ကုရ်အာန်ရဲ့ အာယသ်တော်နှစ်ခုကိုတော့ အသင် ကောင်းစွာ နားလည်ထားပါ။ ပထမအာယသ်ကတော့...

لَا تَعْتَذِرُوْا قَدْ كَفَرْتُمْ بَعْدَ اِيْمَانِكُمْ

"အသင်တို့သည် အကြောင်းမပြကြလေနှင့်။ အမှန်စင်စစ် အသင်တို့သည် အီမာန်ယုံကြည်(သည်ကို ထုတ်ဖော်ပြောဆို)ပြီးနောက် သွေဖည်ငြင်းပယ်ခဲ့ကြသည်။" (ကုရ်အာန်−၉း၆၆)

## ~~အထင်အလွဲများကို ချေဖျက်ခြင်း~~

သဗူးက်စစ်ပွဲမှာ တမန်တော်မြတ်ﷺနဲ့ အတူလိုက်ပါခဲ့ပါလျက် နောက်သည့်ပုံစံဖြင့် မိမိတို့ပါးစပ်က ပြောလိုက်တဲ့ကုဖ်ရ်စကားတစ်ခွန်းကြောင့် အချို့စွဟာဗဟ်တွေဟာ ကာဖိရ်အဖြစ်သတ်မှတ်ခံလိုက်ရတယ် ဆိုရင် လောကီရေးရာဆုံးရှုံးမှု တစ်ခုကို စိုးရိမ်လို့ သို့မဟုတ် ပစ္စည်းဥစ္စာနဲ့ ခံ့ရာထူးကို မက်မောလို့ သို့မဟုတ် တစ်ဦးတစ်ယောက်ကို ဖားဖို့အတွက် ကုဖ်ရ်ရဲ့စကားပြောတဲ့သူ၊ ကုဖ်ရ်အမှုပြုလုပ်တဲ့သူဟာ နောက်သည့်ပုံစံဖြင့် ကုဖ်ရ်ရဲ့ စကားပြောတဲ့သူထက် ဘယ်လောက် ပိုအပြစ်ကြီးမလဲ ဆိုတာကို ခင်ဗျားသိလောက်ပြီ ထင်တယ်။

ဒုတိယအာယသ်တော်ကတော့...

مَنْ كَفَرَ بِاللّٰهِ مِنْۢ بَعْدِ اِيْمَانِهٖٓ اِلَّا مَنْ اُكْرِهَ وَ قَلْبُهٗ مُطْمَئِنٌّۢ بِالْاِيْمَانِ وَلٰكِنْ مَّنْ شَرَحَ بِالْكُفْرِ صَدْرًا فَعَلَيْهِمْ غَضَبٌ مِّنَ اللّٰهِ ۚ وَلَهُمْ عَذَابٌ عَظِيْمٌ ﴿١٠٦﴾ ذٰلِكَ بِاَنَّهُمُ اسْتَحَبُّوا الْحَيٰوةَ الدُّنْيَا عَلَى الْاٰخِرَةِ ۙ

"မည်သူမဆို သူအီမာန်ယုံကြည်ပြီးနောက် အလ္လာဟ်အရှင်မြတ်အား ငြင်းပယ်ခဲ့လျှင်၊ ထို(ငြင်းပယ်မှု)ထဲ၌ အကြင်သူမပါပေ၊ ထိုသူ၏ စိတ်နှလုံးသည် အီမာန်ယုံကြည်မှုနှင့်ပင် နှစ်သိမ့်ကျေနပ်နေစဉ် အတင်း အကျပ်ပြုခြင်းခံရသည် (သူ့တွင် အပြစ်မရှိပေ)။ သို့ရာတွင် အကြင် သူ၏ စိတ်နှလုံးသည် ငြင်းပယ်မှုတွင် မွေ့လျော်ခဲ့လျှင် ထိုသူများ၏အပေါ် တွင်မူ အလ္လာဟ်အရှင်မြတ်ထံတော်မှ အမျက်တော် ကျရောက်မည်ဖြစ် သည်။ ၎င်းနောက် သူတို့အတွက် ကြီးကျယ်သော ပြစ်ဒဏ်လည်း ရှိမည် ဖြစ်သည်။ ဤ(အပြစ်ဒဏ်ခံရခြင်း)မှာမူ သူတို့သည် ဤဘဝအား တမလွန်ဘဝထက် ပိုနှစ်သက်ခဲ့ကြသည့်အတွက် ဖြစ်သည်။" (၁၆း၁၀၆၊ ၁၀၇)

ကုဖ်ရ်လုပ်ဖို့ အတင်းအကျပ် စေခိုင်းခြင်း ခံရပြီး နှလုံးသားက

## ~~အထင်အလွဲများကို ချေဖျက်ခြင်း~~

အီမာန်နဲ့ ငြိမ်းချမ်းနေမယ်ဆိုရင်တော့ အလ္လာဟ်က သူ့ကို ဖမ်းမယူပါဘူး။ သည့်ပြင် တခြားပုံစံတစ်ခုခုဖြစ်မယ်ဆိုရင်တော့ သူဟာ ကုဖ်ရ်ရဲ့ အပြစ်ကို ကျူးလွန်တဲ့အတွက်ကြောင့် ကာဖိရ်ဖြစ်သွားပါပြီ။ သူ့ဟာသူ ကြောက်လို့ ဖြစ်စေ၊ တစ်ဦးတစ်ယောက်ကို ဖားသည့်အနေနဲ့ ဖြစ်စေ၊ လောကီမက်မောမှုကြောင့် ဖြစ်စေ၊ ဇာတိမြေရဲ့အချစ်ကြောင့်ဖြစ်စေ၊ မိသားစုနဲ့ အမျိုးတွေရဲ့အချစ်ကြောင့် ဖြစ်စေ၊ ဥစ္စာပစ္စည်းကြောင့် ဖြစ်စေ၊ နောက်သည့်ပုံစံဖြင့် ပြုလုပ်သည်ဖြစ်စေ၊ အခြားဘာရည်ရွယ်ချက်ကြောင့် လုပ်သည်ဖြစ်စေ သူဟာ ကာဖိရ်ဖြစ်သွားပါပြီ။ အတင်းအကျပ်စေခိုင်းခြင်း ခံရသူကတော့ မပါပါဘူး။

ဒီအာယသ်တော်ဟာ ကျွန်တော်တို့ရဲ့ ဆိုလိုချက်ကို ပုံစံနှစ်မျိုးနဲ့ ညွှန်ပြနေတယ်။ ပထမ တစ်ခုကတော့ အာယသ်တော်မှာ مُكْرَهٌ လို့ ခေါ်တဲ့ အတင်းအဓမ္မစေခိုင်းခံရတဲ့လူကိုပဲ ကန့်သတ်ထားတယ်။ အလုပ်တစ်ခုခုနဲ့ ပတ်သက်ပြီး (သို့) စကားတစ်ခုခုနဲ့ပတ်သက်ပြီး လူသားကို အတင်းအဓမ္မစေခိုင်းနိုင်တာကတော့ ရှင်းပါတယ်။ နှလုံးသားရေးရာနဲ့ ယုံကြည်မှု အပိုင်းမှာတော့ ဘယ်သူမှ ဘယ်သူ့ကို အတင်းအဓမ္မ မလုပ်နိုင်ပါဘူး။

ဒုတိယတစ်ခုကတော့ ဒီအာယသ်ပြီးတော့ လာတဲ့အာယသ်မှာ အလ္လာဟ်အရှင်မြတ် ဖော်ပြထားတဲ့ အချက်ပါ။

ذٰلِكَ بِاَنَّهُمُ اسْتَحَبُّوا الْحَيٰوةَ الدُّنْيَا عَلَى الْاٰخِرَةِ

" ဤ (အပြစ်ဒဏ်ခံရခြင်း)မှာမူ သူတို့သည် ဤဘဝအား တမလွန်ဘဝထက် ပိုနှစ်သက်ခဲ့ကြသည့်အတွက်ဖြစ်သည်။"

(ကုရ်အာန် - ၁၆း၁၀၆၊၁၀၇)

ဒီအာယသ်တော်မှာ ရှင်းလင်းစွာ အတိအကျ ဖော်ပြထားပါတယ်။

ဒီလို ကာဖိရ်ဖြစ်ခြင်းနဲ့ ပြစ်ဒဏ်ခံရခြင်းဟာ ယုံကြည်မှုတစ်ခုခုကြောင့်၊ မသိမိုက်မဲမှုကြောင့်၊ သာသနာကို မုန်းသောကြောင့်၊ ကုဖ်ရ်ကို ချစ်သောကြောင့်တို့ မဟုတ်ပါဘူးတဲ့။

စင်စစ်မှာ အဲဒီလိုဖြစ်ရခြင်းရဲ့ အကြောင်းရင်းကတော့ လောကီအကျိုးတွေ ရဖို့ရှိလို့ လောကီကို သာသနာအပေါ် အရေးပေးလိုက်တဲ့အတွက်ကြောင့်သာ ဖြစ်တယ်တဲ့။

وَاللّٰهُ سُبْحَانَهٗ وَتَعَالٰى أَعْلَمُ، وَالْحَمْدُلِلّٰهِ رَبِّ الْعٰلَمِيْنَ وَصَلَّى اللّٰهُ عَلٰى مُحَمَّدٍ وَعَلٰى آلِهٖ وَصَحْبِهٖ أَجْمَعِيْنَ.

သန့်ပြန့်စင်ကြယ်တော်မူသော အလ္လာဟ်အရှင်မြတ်သာလျှင် အသိဆုံးဖြစ်တယ်။ ချီးမွမ်းထောမနာအလုံးစုံဟာ စကြဝဠာကြီးကို ဖန်ဆင်းမွေးမြူစောင့်ရှောက်တော်မူတဲ့ အရှင်အတွက် ဖြစ်တယ်။ တမန်တော်မြတ်မုဟမ္မဒ်ﷺနဲ့ ကိုယ်တော့် အိမ်သူအိမ်သားများ၊ ကိုယ်တော့်သာဝကကြီးများအပေါ်သို့ ငြိမ်းချမ်းမင်္ဂလာအဖြာဖြာ ကျရောက်ပါစေ(လို့ ဆုတောင်းရင်း နိဂုံးချုပ်ပါတယ်။)

**ဘာသာပြန်ဆိုသူ**

**မုဖ်သီ ဖိုင်စွာလ် ကာစိမီ တန့်ယန်း**